ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ဘူးဂါး ကုမ္ပဏီ လီမိတက်

❀❀❀❀❀❀❀❀❀❀

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

**BU GA COMPANY LIMITED.**

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**

**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

စာအမှတ် - ၅ /ကပ/ ကချင် (၁၆၄ /၂၀၀၁)

ရက်စွဲ - ၂၀၀၁ ခုနှစ်၊ ဇွန်လ (၂၆ ) ရက်။

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရန်ကုန်မြို့

<u>အမှာစာ</u>

အကြောင်းအရာ။ ။ <u>မြစ်ကြီးနား မြို့နယ်နှင့် ဝိုင်းမော် မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း ကိုယ်စား ဘူးဂါးကုမ္ပဏီ လီမိတက်မှ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချရန် အတွက် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် ဘူးဂါးကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် ပဋိညာဉ် စာချုပ်အား မြန်မာနိုင်ငံ ရင်းမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန်ကိစ္စ။</u>

၁။ ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း ကိုယ်စား ဘူးဂါးကုမ္ပဏီ လီမိတက်မှ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်နိုင်ရန် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် ဘူးဂါးကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် စာချုပ် မူကြမ်းအား ရှေ့နေချုပ် ရုံးသို့ ပေးပို့၍ သဘောထား မှတ်ချက်တောင်းခံခဲ့ရာ (၈-၆-၂၀၀၁)ရက်စွဲပါ စာအမှတ် ၂ (၅) ၁၂-၃ (၁၆၂) ဖြင့် ပြန်ကြားလာခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် ဘူးဂါးကုမ္ပဏီ လီမိတက်တို့ သဘောတူ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်အား ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင် ပြုစုပြီး ဖြစ်ပါ၍ စာချုပ်မူကြမ်းအား ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြရာတွင် အဆိုပြု အမှုတွဲနှင့်အတူ ပူးတွဲ တင်ပြ နိုင်ရန်အတွက် ပေးပို့အပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)

(မျိုးမြင့်၊ ဒုတိယ ဝန်ကြီး)

မိတ္တူကို -

(၁) ညွှန်ကြားရေးမှူးချုပ်

လျှပ်စစ်စွမ်းအားဦးစီးဌာန

(၂) ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

(၃) မန်နေဂျင်းဒါရိုက်တာ

ဘူးဂါးကုမ္ပဏီ လီမိတက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

စာအမှတ် - ၅ / ကပ / ကချင် / (၁၁၃/၂၀၀၁)
ရက်စွဲ - ၂၀၀၁ ခုနှစ်၊ မေလ (၁၇) ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ။ <u>ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်တို့တွင် ဘူးဂါးကုမ္ပဏီလီမိတက်မှ တဘက်ချောင်း ရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့် တင်ပြခြင်း ကိစ္စ။</u>

ရည်ညွှန်းချက် ။ ။ (၁) ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉-၇-၂၀၀၀) နေ့စွဲပါ စာအမှတ် ၇က-၁/မ-၆၂၃/၂၀၀၀ (၁၈၂၄-၃)။

(၂) ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၁၂-၂၀၀၀) နေ့စွဲပါ စာအမှတ် ၇က-၁/မ-၆၂၃/၂၀၀၀ (၂၈၉၀-၃)။

(၃) ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂-၄-၂၀၀၁) နေ့စွဲပါ စာအမှတ် ၇က-၁/မ-၆၂၃/၂၀၀၁ (၃၀၉-၃)။

၁။ အထက်အကြောင်းအရာပါ အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ (၃၁-၇-၂၀၀၀)၊ (၃၀-၄-၂၀၀၁) နှင့် (၇-၅-၂၀၀၁)နေ့များတွင် သက်ဆိုင်ရာ ဘူးဂါး ကုမ္ပဏီလီမိတက်မှ တာဝန်ရှိသူများအား လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ ဖိတ်ကြား၍ ရည်ညွှန်းချက် (၁) ပါ စာတွင် ဖော်ပြထားသည်နှင့်အညီ ကောက်ခံမည့် ဓာတ်အားခနှုန်းထား၊ နိုင်ငံတော်သို့ လွှဲပြောင်းပေးမည့် အချိန်ကာလတို့နှင့် ပတ်သက်၍ လည်းကောင်း၊ အခြားအသေးစိတ် အချက်အလက်များနှင့် ပတ်သက်၍ လည်းကောင်း ရှင်းလင်း ဆွေးနွေး ညှိနှိုင်း ခဲ့ပါသည်။

၂။ ဘူးဂါးကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်ရန်ကိစ္စနှင့် ပတ်သက်၍ ကောက်ခံမည့် ဓာတ်အားခနှုန်းထား၊ နိုင်ငံတော်သို့ လွှဲပြောင်းပေးမည့် အချိန်ကာလနှင့် အခြားလိုအပ်သည့် အသေးစိတ် အချက်အလက်များအပေါ် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ စိစစ် ညှိနှိုင်း ရရှိချက်များအား အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

(က) <u>ဓာတ်အားခနှုန်းထား</u>

- တပ်မတော်နှင့် အစိုးရဌာနများအား လက်ရှိ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ကောက်ခံလျက်ရှိသော နှုန်းထား အတိုင်း တစ်ယူနစ်လျှင် -၅၀ါးနှုန်းထားဖြင့် နိုင်ငံတော်မှ

သတ်မှတ်ခွင့်ပြုထားသည့် ဓာတ်အားယူနစ်များအထိ လည်းကောင်း၊ ယင်းပမာဏထက် ကျော်လွန်ပါက တစ်ယူနစ်လျှင် ၃ဦ/၀၀၊ နှုန်းထားဖြင့် လည်းကောင်း၊

- သာသနာရေးဆိုင်ရာ ဓာတ်အားသုံးစွဲမှုများအတွက် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ လက်ရှိ သတ်မှတ် ကောက်ခံလျက်ရှိသော နှုန်းထားဖြင့်လည်းကောင်း၊
- ဝန်ထမ်း၊ အငြိမ်းစားဝန်ထမ်းများအား ယူနစ် ၂၀၀ အထိ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ လက်ရှိ သတ်မှတ် ကောက်ခံလျက်ရှိသော နှုန်းထားဖြင့်လည်းကောင်း၊ ယူနစ် ၂၀၀ ကျော်လွန်ပါက တစ်ယူနစ်လျှင် ၃ဦ/နှုန်းထားဖြင့် လည်းကောင်း၊
- အများပြည်သူတို့အား ယူနစ် ၂၀၀ အထိ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ လက်ရှိ သတ်မှတ် ကောက်ခံလျက်ရှိသော နှုန်းထားဖြင့် လည်းကောင်း၊ ယူနစ် ၂၀၀ ကျော်လွန်ပါက တစ်ယူနစ်လျှင် ၃ဦ/ နှုန်းထားဖြင့် လည်းကောင်း၊
- စီးပွားရေးနှင့် စက်မှုလက်မှုများအားတစ်ယူနစ်လျှင် ၃ဦ/ နှုန်းထားဖြင့်လည်းကောင်း၊

အသီးသီးသတ်မှတ် ကောက်ခံရန်၊ နောင်တွင် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ နှုန်းထားများ ပြောင်းလဲ သတ်မှတ်ပါက ယင်းသို့ ပြောင်းလဲသတ်မှတ်သည်နှင့်အညီ ပြောင်းလဲ ကောက်ခံရန်။

( ခ ) <u>လုပ်ငန်းဆောင်ရွက်မည့် ပုံစံ/ ကာလ</u>

ဘူးဂါးကုမ္ပဏီမှ တဘက်ချောင်း ရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံအား ဓာတ်အားစတင် ထုတ်လုပ်ဖြန့်ဖြူးသည့်နေ့မှ ကနဦး (၂၀) နှစ်နှင့် နောက်ထပ် (၅) နှစ် (နှစ်ကြိမ်)၊ စုစုပေါင်း (၃၀) နှစ်အား ပိုင်ဆိုင် ဆောင်ရွက်ခွင့် ရရှိရေးအတွက် တင်ပြထားရန်၊ ယင်းကာလကုန်ဆုံးသည့်အခါ လွှဲပြောင်း ပေးခြင်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန တို့၏ လမ်းညွှန်မှုကို ခံယူကာ လိုက်နာဆောင်ရွက်ရန်၊ Built - Own - Operate - Transfer (BOOT) စနစ်ဖြင့် ဆောင်ရွက်ရန်၊

( ဂ ) **<u>Royalty Fees</u>**

ထုတ်လုပ်ယူနစ်များအပေါ် တစ်ယူနစ်လျှင် ၃/၀၀၊ နှုန်းဖြင့် ဘူးဂါး ကုမ္ပဏီမှ မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်း သို့ ပေးသွင်းရန်၊

(ဃ) <u>လုပ်ငန်းတိုးချဲ့ဆောင်ရွက်နိုင်ရန် စီမံထားနိုင်မည့် နယ်မြေဒေသများ</u>

ဘူးဂါးကုမ္ပဏီမှ အဆင့် (၆) ဆင့်ဖြင့် တင်ပြထားသော နယ်မြေဒေသများ အနက် မြန်မာ့ လျှပ်စစ်ဓာတ်အားလုပ်ငန်း၏ မဟာဓာတ်အားလိုင်းစနစ် ရောက်ရှိပြီးဖြစ်သော ဗန်းမော်၊ မန်စီ၊ ရွှေကူ၊ မိုးမောက်မြို့နယ် များမှအပ ကျန်ဒေသများအတွက် စီမံဆောင်ရွက်ထားနိုင်သည်ဟု သတ်မှတ်ရန်၊ လုပ်ငန်း ဆောင်ရွက်ခွင့် အတွက်မူ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်။

(င) <u>မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ မြစ်ကြီးနားနှင့် ဝိုင်းမော်မြို့နယ်တို့တွင် လက်ရှိ တပ်ဆင်ထားသော ဓာတ်အားပေးစက်များ</u>

ရွှေ့ပြောင်းနိုင်သော ဒီဇယ်ဓာတ်အားပေးစက်များအား အခြားလိုအပ်သော နေရာဒေသများသို့ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ရွှေ့ပြောင်းတည်ဆောက်ရန်၊ ရွှေ့ပြောင်းခြင်းမပြုနိုင်သော ကျိန်ခရမ်ခ ရေအားလျှပ်စစ် ဓာတ်အားပေး စက်ရုံအား ဘူးဂါးကုမ္ပဏီသို့ လွှဲပြောင်းရေးကိစ္စအပေါ် နိုင်ငံတော်၏ လမ်းညွှန်မှုအား တောင်းခံဆောင်ရွက်ရန်၊

(စ) <u>မလိချောင်း ရေအားလျှပ်စစ်စီမံကိန်း</u>

ယခင်ကတဘက်ချောင်း ရေအားလျှပ်စစ် စီမံကိန်း ဆောင်ရွက်ရာတွင် စီမံကိန်းသုံး ဓာတ်အား ရရှိရေးအတွက် မလိချောင်း ရေအားလျှပ်စစ်စီမံကိန်းအား တင်ပြခဲ့သော်လည်း ယခုမှု ၁၀.၅ မဂ္ဂါဝပ် ဓာတ်အားထုတ်လုပ်၍ စီးပွားရေးလုပ်ငန်းပုံစံ ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချရန် ရည်ရွယ်ထား သဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ဆောလျင်စွာ အဆိုပြု တင်ပြရန်။

(signature) ၁၇/၂ ၂၀၁၁

ဝန်ကြီး (signature)

(မျိုးမြင့် - ဒုတိယဝန်ကြီး)

မိတ္တူကို-

(၁) ညွှန်ကြားရေးမှူးချုပ်
လျှပ်စစ်စွမ်းအားဦးစီးဌာန

(၂) ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

(၃) မန်နေဂျင်းဒါရိုက်တာ
ဘူးဂါးကုမ္ပဏီ လီမိတက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

စာအမှတ် ။ ။ ၅ / ကပ / ကချင် / (၀၂၄ / ၂၀၀၀)
နေ့စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင်လ ( ၄ ) ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အမှာစာ

အကြောင်းအရာ ။ ။ <u>ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်တို့တွင် ဘူးဂါးကုမ္ပဏီလီမိတက်မှ တဘက်ချောင်း ရေအားလျှပ်စစ်ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့် တင်ပြခြင်း။</u>

၁။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန အနေဖြင့် ဒီဇယ်လျှပ်စစ်ဓာတ်အားပေးစက်များ အသုံးပြု၍ ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးပေးထားသော မြို့နယ်များအနက် အချို့မြို့နယ်များတွင် သက်တမ်းကြာမြင့်သော ဒီဇယ်လျှပ်စစ်ဓာတ်အားပေးစက်များမှ စက်စွမ်းအားပြည့် ထုတ်လုပ်နိုင်ခြင်းမရှိ၍ အရှုံးပေါ်လျက်ရှိခြင်း၊ ဒီဇယ်ဆီ ကန့်သတ်ချက်ရှိ၍ နာရီပိုင်းသာ ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးပေးနိုင်ခြင်း စသည်တို့ကြောင့် ဒေသ ဖွံ့ဖြိုးရေး နှင့် အများပြည်သူတို့၏ လျှပ်စစ်ဓာတ်အား လိုအပ်ချက်အား ဖြည့်ဆည်းပေးနိုင်မှုတွင် အားနည်းလျက် ရှိနေခဲ့ ပါသည်။

၂။ အဆိုပါ မြို့နယ်များအနက် အောက်တွင်ဖော်ပြပါရှိသော မြို့နယ် (၂) မြို့နယ်အား ဘူးဂါးကုမ္ပဏီလီမိတက်မှ ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ပြီး ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချလိုကြောင်း တင်ပြလာပါသည်။

(က) မြစ်ကြီးနားမြို့နယ်၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်မှာ ၄.၅ မဂ္ဂါဝပ်ခန့် ရှိရာတွင် ကျိန်ခရမ်

## လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအား လျှပ်စစ်ဓာတ်အားပေးစက်ရုံ (တပ်ဆင်အင်အား ၂.၅၂ မဂ္ဂါဝပ်) နှင့် ဒီဇယ် လျှပ်စစ်ဓာတ်အားပေးစက် (၅) လုံး (တပ်ဆင်အင်အား ၃.၃၆၃ မဂ္ဂါဝပ်) တို့မှ ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးလျက်ရှိရာ မိုးရာသီတွင် (၃.၀ မဂ္ဂါဝပ်) နှင့် နွေရာသီတွင် (၁.၃ မဂ္ဂါဝပ်)ပမာဏသာလျှင် ထုတ်လုပ်ပေးနိုင်သဖြင့် အလှည့်ကျ စနစ်ဖြင့် ဖြန့်ဖြူးပေးလျက် ရှိပါသည်။

(ခ) ဝိုင်းမော်မြို့နယ်တွင် ဒီဇယ် လျှပ်စစ်ဓာတ်အားပေးစက် (၂) လုံး ( တပ်ဆင်အင်အား ၀.၁၃၈ မဂ္ဂါဝပ်) ဖြင့် ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးလျက် ရှိသော်လည်း သက်တမ်းကြာမြင့်သော စက်များဖြစ်၍ စွမ်းအားပြည့် ထုတ်လုပ်နိုင်ခြင်း မရှိသဖြင့်လည်းကောင်း၊ ဒီဇယ်ဆီ ကန့်သတ်ချက်ရှိ၍လည်းကောင်း၊ နာရီပိုင်းသာ ဓာတ်အားဖြန့်ဖြူးပေးလျက် ရှိပါသည်။

၃။ ဘူးဂါးကုမ္ပဏီလီမိတက်မှ မြစ်ကြီးနားမြို့၏ တောင်ဘက် (၄၅) မိုင် အကွာရှိ တဘက်ချောင်း ရေအားလျှပ်စစ်စီမံကိန်းအပေါ် ဖြစ်မြောက်နိုင်စွမ်းလေ့လာခြင်း၊ တိုင်းတာခြင်းနှင့် ဒီဇိုင်းပုံစံထုတ်ခြင်းလုပ်ငန်းများဆောင်ရွက်ခဲ့ပြီး ဖြစ်ပါသဖြင့် ရေအားလျှပ်စစ်ဓာတ်အားပေး စက်ရုံတည်ဆောက်၍ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များသို့ ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချလိုကြောင်း ယခုကဲ့သို့ တင်ပြလာခြင်း ဖြစ်ပါသည်။

၄။ ဘူးဂါးကုမ္ပဏီလီမိတက်မှ တင်ပြလာသော အဆိုပြုချက်တွင် ပါရှိသည့် ကျွမ်းကျင်မှုဆိုင်ရာ အစီရင်ခံစာအား လေ့လာရာတွင် တဘက်ချောင်း ရေအားလျှပ်စစ် စီမံကိန်းသည် ချောင်းရေစီးကို တိုက်ရိုက် အသုံးပြုသော ( run - off- the - river - scheme ) စနစ်ဖြစ်၍ တစ်နှစ်ပတ်လုံးနီးပါး ( 95 % of the time ) ရေစီးဆင်းလျက်ရှိသော ချောင်းဖြစ်သဖြင့် Design head 247 ft, Design Discharge 1350 Cusec ရရှိပြီး၊ တပ်ဆင်စက်အင်အား 24 MW ကို ကောင်းစွာ ထုတ်လုပ်နိုင်စွမ်းရှိသည်မှာ မှန်ကန်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ ဘူးဂါးကုမ္ပဏီလီမိတက်မှ တင်ပြလာသော အဆိုပြုချက်တွင် ပါရှိသည့် စီးပွားရေးဆိုင်ရာ အစီရင်ခံစာအား စိစစ်လေ့လာရာတွင် လုပ်ငန်းစီမံကိန်း၏ မတည်ငွေအဖြစ် နိုင်ငံခြားငွေတန်ဘိုး အတိုးအရင်းပေါင်း အမေရိကန် ဒေါ်လာ ၂၅.၃၀ သန်းနှင့် မြန်မာကျပ်ငွေ (၂၀၆၇) သန်းရှိပြီး ထုတ်လုပ်သည့် ဓာတ်အား တစ်ယူနစ်လျှင် ၂၄ိ/- ကျပ်နှုန်းဖြင့် ရောင်းချပါက (၄) နှစ်အတွင်း အရင်းကျေမည်ဖြစ်ပြီး Internal Rate of Return မှာ ( ၂၃.၅၄ % ) ဖြစ်သဖြင့် စီးပွားရေးအရ တွက်ချေကိုက်ကြောင်း တွေ့ရှိရပါသည်။

၆။ မတည်ရင်းနှီးသည့် နိုင်ငံခြားငွေကို လက်ရှိလုပ်ကိုင်လျက်ရှိသော သစ်စက်လုပ်ငန်း၊ ကျောက်မြက်တူးဖော်ခြင်းလုပ်ငန်း နှင့် တိုးချဲ့လုပ်ကိုင်မည့် လုပ်ငန်းများမှ ရရှိမည့် နိုင်ငံခြားငွေဖြင့်ပေးဆပ်မည်ဖြစ်ပါသည်။

## လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

၇။ ဘူးဂါးကုမ္ပဏီလီမိတက်သို့ ဖော်ပြပါ မြို့နယ်များတွင် ရေအားလျှပ်စစ် ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက အောက်ပါ အကျိုးကျေးဇူးများ ရရှိပါမည်-

(က) မြစ်ကြီးနားမြို့၊ ဝိုင်းမော်မြို့နယ်နှင့် ပတ်ဝန်းကျင်ဒေသများအတွက် လိုအပ်သော လျှပ်စစ်ဓာတ်အားကို အပြည့်အဝနှင့် စဉ်ဆက်မပြတ် ဖြန့်ဖြူးပေးနိုင်မည် ဖြစ်သဖြင့် နယ်စပ်ဒေသနှင့် တိုင်းရင်းသား လူမျိုးများ၏ ဖွံ့ဖြိုးတိုးတက်ရေးကို ကြီးမားစွာ အထောက်အကူပြုနိုင်ခြင်း။

(ခ) ဒေသခံ ပြည်သူအများ (၂၄) နာရီ လျှပ်စစ်ဓာတ်အားသုံးစွဲခွင့် ရရှိသဖြင့် လူမှုဘဝ မြင့်မား တိုးတက်လာနိုင် ခြင်း။

(ဂ) လက်ရှိ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ဝန်ထမ်းများ လစာ၊ ခံစားခွင့် ပိုမို ရရှိနိုင်ခြင်း။

(ဃ) နိုင်ငံအတွင်း လျှပ်စစ်ဓာတ်အား ထုတ်လုပ်မှုကို ပုဂ္ဂလိက ကဏ္ဍမှ တစ်ဘက်တစ်လမ်း ဖြည့်ဆည်းပေးနိုင်ခြင်း။

(င) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးမှုတွင် တိုင်းရင်းသား အဖွဲ့အစည်းများအနေဖြင့် တစ်တပ်တစ်အား ပါဝင်ဆောင်ရွက်နိုင်ခြင်း။

၈။ သို့ပါ၍ ဘူးဂါးကုမ္ပဏီလီမိတက်မှ ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်တို့တွင် တဘက်ချောင်း ရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက် လိုကြောင်း တင်ပြလာသည့် အစီအစဉ်အား ခွင့်ပြု နိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )

( ဇော်ဝင်း၊ ညွှန်ကြားရေးမှူးချုပ်)

C:\My Documents\U Aung Khine\Kachin(2) of MyintKyiNa&WineMaw_power_Distribution.doc

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စု မြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင်လ၊ ( ၃ )ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန်ပေးပို့ခြင်း။

အထက်အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ BU GA COMPANY LIMITED ( ဘုးဂါး ကုမ္ပဏီ လီမိတက် )အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ကချင်ပြည်နယ်၊ဝိုင်းမော်မြို့နယ်နှင့် မြစ်ကြီးနားမြို့နယ်တွင် ရေအားလျှပ်စစ်ထုတ်လုပ်သည့် လုပ်ငန်းစက်ရုံကို တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အားများထုတ်လုပ် ဖြန့်ဖြူးသည့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၆) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေ လေးစားစွာဖြင့်
လျှောက်ထားသူ

(signature)

ဒေါက်တာ လဂျာ
( အုပ်ချုပ်မှု ဒါရိုက်တာ )
BU GA COMPANY LIMITED.

သို့

ညွှန်ကြားရေးမှူးချုပ်
လျှပ်စစ်စွမ်းအားဦးစီးဌာန၊
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ (၁၉) ရက်

အကြောင်းအရာ။ ။ ရေအားလျှပ်စစ်လုပ်ငန်း လုပ်ကိုင်ခွင့်ရရှိရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားတင်ပြပေးပါရန်ကိစ္စ။

ရည် ညွှန်း ချက်။ ။ လျှပ်စစ်စွမ်းအားဦးစီးဌာန ၏ ၂၀၀၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ (၁၆)ရက်နေ့စွဲပါ စာအမှတ်၊ ၂၂၉/၁/ထ (၀၈၅/၂၀၀၀)

လူကြီးမင်းခင်ဗျား -

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်တွင် ရေအားလျှပ်စစ်လုပ်ငန်းလုပ်ကိုင်နိုင်ရန် လျှပ်စစ်စွမ်းအား ဦးစီးဌာန၏ ခွင့်ပြုမိန့်အား အထက်ရည်ညွှန်းချက်ပါ စာဖြင့် ရရှိပြီးဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ အထက်ပါရေအားလျှပ်စစ်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ခွင့် ရရှိနိုင်ရန် ခွင့်ပြုမိန့်ရရှိရေးအတွက် ပူးတွဲပါစီမံကိန်းအဆိုပြုလွှာမူကြမ်းကို လူကြီးမင်းတို့ဌာနမှ လိုအပ်သလို စီစစ်ထောက်ခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြပေးပါရန် လေစားစွာဖြင့် တင်ပြအပ်ပါသည်ခင်ဗျား။

၃။ ယင်းသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြရာတွင် လူကြီးမင်းတို့ဌာနမှ ထပ်မံလိုအပ်မည့် စာရွက်စာတမ်း အထောက်အထားများနှင့် နောက်ဆက်တွဲများ ရှိခဲ့ပါလျှင် ကျွန်တော်များ မှ ဝိုင်းဝန်းဖြည့်ဆည်း ပေးသွားမည် ဖြစ်ပါကြောင်းဖော်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါက်တာလဂျာ
ဘူးဂါး ကုမ္ပဏီလီမိတက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စု မြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ၊ (၁၉)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန် ပေးပို့ခြင်း။

အထက်အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ BU GA COMPANY LIMITED ( ဘုးဂါး ကုမ္ပဏီ လီမိတက် )အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ကချင်ပြည်နယ်၊ဗိုင်းမော်မြို့နယ်နှင့် မြစ်ကြီးနားမြို့နယ်တွင် ရေအားလျှပ်စစ်ထုတ်လုပ်သည့် လုပ်ငန်းစက်ရုံကို တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အားများထုတ်လုပ် ဖြန့်ဖြူးသည့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၆) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေ လေးစားစွာဖြင့်
လျှောက်ထားသူ

ဒေါက်တာ လဂျာ
( အုပ်ချုပ်မှု ဒါရိုက်တာ )
BU GA COMPANY LIMITED.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ၊ (၁၉)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိ ဝန်ခံချက် ပေးပို့ခြင်း။

အထက် အကြောင်းအရာပါ ကိစ္စနှင့် ပတ်သက်၍ ကျွန်တော်တို့ **BU GA COMPANY LIMITED** (ဘုဂါး **ကုမ္ပဏီ လီမိတက်**) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ကချင်ပြည်နယ်၊ ဝိုင်းမော်မြို့နယ် နှင့် မြစ်ကြီးနား မြို့နယ်တွင် ရေအားလျှပ်စစ် ထုတ်လုပ်သည့် လုပ်ငန်းစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အားများ ထုတ်လုပ်ဖြန့်ဖြူးသည့်လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံ ကတိပြုပါသည်။

(၁) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်သော လုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်း တွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း ဝန်ခံကတိ ပြုပါသည်။

(၂) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ရရှိမှသာ စတင်ဆောင်ရွက်မည့် လုပ်ငန်း အသစ်ဖြစ်ကြောင်း နှင့် တင်သွင်းမည့် စက်ပစ္စည်းများမှာလည်း အသစ် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) နိုင်ငံတော် အစိုးရမှ လျှပ်စစ်လုပ်ငန်းနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(၄) နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(၅) လုပ်ငန်း ဆောင်ရွက် ရာတွင် ပြည်ပမှ ချေးငွေ ရယူခြင်း သည် နိုင်ငံတော် နှင့် သက်ဆိုင်ခြင်း မရှိ စေဘဲ ချေးယူသူ၏ တာဝန်သာဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ ချေးငွေပြန်လည် ပေးဆပ်ရာတွင်လည်း ကျွန်တော်တို့ ဘုဂါး **ကုမ္ပဏီ လီမိတက်**ပိုင် လုပ်ငန်းများမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည် ဖြစ်ပါကြောင်းနှင့် စာရင်းဇယားများ ကိုလည်း သီးခြားစီ ထားရှိမည်ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်။

(၆) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်း ဆောင်ရွက်ရာ တွင်လည်း ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မဖြစ်ပွားစေရန်နှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီ အမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေ လေးစားစွာဖြင့်
လျှောက်ထားသူ

ဒေါက်တာ လဂျာ
( အုပ်ချုပ်မှု ဒါရိုက်တာ )
**BU GA COMPANY LIMITED.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ၊ (၁၉)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ထုတ်ပေးပါရန် နှင့် ယင်း ဥပဒေ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ပြုပါရန်လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် ပတ်သက်၍ ကျွန်တော်တို့ **BU GA COMPANY LIMITED** ( **ဘူးဂါး ကုမ္ပဏီ လီမိတက်** ) အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ကချင်ပြည်နယ်၊ ဝိုင်းမော်မြို့နယ် နှင့် မြစ်ကြီးနားမြို့နယ်တွင် ရေအားလျှပ်စစ် ထုတ်လုပ်သည့် လုပ်ငန်းစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အားများ ထုတ်လုပ်ဖြန့်ဖြူးသည့်လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ လျှောက် ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီသည် ရေအားလျှပ်စစ်ဓါတ်အားစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားများထုတ်လုပ်ခြင်းအတွက် မတည်ရင်းနှီးငွေကျပ် သန်းပေါင်း (၂၁၈၂.၄၂)သန်းကို မြန်မာကျပ်ငွေ၊ စက်ရုံ အဆောက်အဦး၊ စက်ပစ္စည်း ကိရိယာများ၊ ဆောက်လုပ်ရေး ပစ္စည်းများ ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည် ဖြစ်ပါသည်။ ထုတ်လုပ်ရရှိလာသော လျှပ်စစ်ဓါတ်အားများကို ကချင်ပြည်နယ်၊ ဝိုင်းမော်မြို့နယ်နှင့် မြစ်ကြီးနား မြို့နယ်တို့တွင် လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးပေးမည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီ **လီမိတက်** သည် အဆိုပြုလုပ်ငန်း အတွက် လိုအပ်သော အမေရိကန် ဒေါ်လာ (၁၇.၅၇) သန်းတန်ဖိုးရှိသော စက်ပစ္စည်းကိရိယာများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ဆောက်လုပ်ရေး ပစ္စည်းများကို မလေးရှားနိုင်ငံရှိ **TSB & SONS HOLDINGS SDN BHD, MALAYSIA** ကုမ္ပဏီမှ **Deferred Payment Loan Agreement** ဖြင့် ဝယ်ယူတင်သွင်း၍ ဆယ်နှစ်ဖြင့် ပြန်လည် ပေးဆပ်ရန် တနှစ်လျှင် (၈) ရာခိုင်နှုန်း အတိုးဖြင့် လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါသည်။ ချေးငွေပြန်လည် ပေးဆပ်ရာတွင်လည်း ကျွန်တော်တို့ ဘူးဂါး ကုမ္ပဏီ လီမိတက်ပိုင် လုပ်ငန်းများမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည် ဖြစ်ပါသည်။

၄။ ကျွန်တော်တို့ ကုမ္ပဏီ၏ ရေအားလျှပ်စစ် ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းသည် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများတိုးပွားရရှိစေခြင်း၊ မြန်မာနိုင်ငံသားများ၏ အလုပ်အကိုင်အခွင့်အလမ်းများ တိုးတက်ပေါ်ပေါက်စေခြင်း၊ နယ်မြေဒေသ ဖွံ့ဖြိုးတိုးတက်မှု ဖြစ်စေခြင်း၊ နိုင်ငံတော်၏ လူနေမှုဘဝ တိုးတက်ဖွံ့ဖြိုးလာစေခြင်း၊ နိုင်ငံတော်၏ဘက်စုံစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအရှိန်အဟုန်မြင့်၍ ထောက်ကူပံ့ပိုးပေးခြင်းစသည့် အကျိုးစီးပွား ဖြစ်ထွန်းပေါ်ပေါက် စေသည့် အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဤအဆိုပြုချက်ကို လက်ခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် **(Permit)** ထုတ်ပေးပါရန် လေးစားစွာလျှောက်ထားတင်ပြအပ်ပါသည်။

၅။ ကျွန်တော်တို့ ကုမ္ပဏီအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ တို့ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

၆။ ဤ အဆိုပြုချက် နှင့်အတူ အောက်ဖော်ပြပါ စာရွက် စာတမ်း အထောက် အထားများကို ပူးတွဲ တင်ပြအပ်ပါသည်။

(၁) ကမကထ ပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ-ပုံစံ)
(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊
(၃) မြေပိုင်ဆိုင်မှု အထောက်အထားများ၊
(၄) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊
(၅) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုများ၊

စသည်တို့ဖြစ်ပါသည်။

၈။ သို့ဖြစ်ပါ၍ ဤအဆိုပြုချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လက်ခံခွင့်ပြုတော်မူပါရန်နှင့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့် ပြုတော်မူပါရန် ခွင့်ပြုမိန့် **(Permit)** ထုတ်ပေးသင့်ပါကြောင်း လေးစားစွာ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာ လဂျာ
( အုပ်ချုပ်မှု ဒါရိုက်တာ )
**BU GA COMPANY LIMITED.**

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ။ ။ ၁၉.၇.၂၀၀၀.

ကျွန်တော် /ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် အောက်ပါ အချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) | အမည် | ဒေါက်တာလဂျာ |
| (ခ) | အဖအမည် | ဦးလခင်တူး |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁/မကန(နိုင်) ၁၀၂၇၄၉ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်-၄၄၆၊ ယုဇနရပ်ကွက်၊ မြစ်ကြီးနားမြို့နယ်၊ ကချင်ပြည်နယ်။ |
| (င) | လူမျိုး၊ ဘာသာ | ကချင် ၊ ခရစ်ယာန်ဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | ဘူးဂါး ကုမ္ပဏီ လီမိတက် BU GA COMPANY LIMITED. |
| (ဆ) | လုပ်ငန်းအမျိုးအစား | ရေအားလျှပ်စစ်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်-၄၄၆၊ ယုဇနရပ်ကွက်၊ မြစ်ကြီးနားမြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုမည့်သူများ၏-

(က) အမည် -

(ခ) အဖအမည် -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် -

(ဃ) နေရပ်လိပ်စာ -

(င) လူမျိုး၊ ဘာသာ -

(စ) အဖွဲ့အစည်းအမည် -

(ဆ) လုပ်ငန်းအမျိုးအစား -

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် -

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -

(ခ) ဝန်ဆောင်မှုလုပ်ငန်း - ရေအားလျှပ်စစ်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း။

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ -
(က) နိုင်ငံသားလုပ်ကိုင်ဆောင်ရွက်ခြင်း - ရေအားလျှပ်စစ်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း။

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - မရှိပါ၊

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - မရှိပါ၊

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် - စီးပွားရေး အဖွဲ့အစည်း ပုံသဏ္ဍာန်

(က) တစ်ဦးတည်းပိုင် -
(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း -
(ဂ) လီမိတက် ကုမ္ပဏီ - ဘူးဂါး ကုမ္ပဏီလီမိတက်၊နောက်ဆက်တွဲ(၁)
(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုဝင်တို့က ထည့်ဝင်မည့် အစုငွေ အမျိုးအစားနှင့် ပမာဏ -
(ခ) အကျိုးအမြတ် ခွဲဝေမည့် အချိုးအစား -
(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ-

၇။ သမဝါယမအသင်း/ လီမိတက် ကုမ္ပဏီ ဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၂၀၀,၀၀၀,၀၀၀/-(ကျပ် သန်း နှစ်ရာ တိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁၀၀,၀၀၀/- (ကျပ် တစ်သိန်း တိတိ)တန် သာမန်အစုရှယ်ယာ ၂,၀၀၀ (နှစ်ထောင်)

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် - ကျပ် ၁၈၀,၀၀၀,၀၀၀/- (ကျပ် တစ်ရာ့ ရှစ်ဆယ် သန်း တိတိ) တစ်စုလျှင် ကျပ် ၁၀၀,၀၀၀ (ကျပ် တစ်သိန်း တိတိ) တန် အစုရှယ်ယာ ၁,၈၀၀/- (တစ်ထောင့် ရှစ်ရာ)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ (ယခုအဆိုပြုလုပ်ငန်းအတွက်) (ကျပ်သန်းပေါင်း)

| | | |
|---|---|---|
| (၁) | ငွေပမာဏ | ၁၀.၀၀ |
| (၂) | မြေ | |
| (၃) | အဆောက်အဦး (တည်ဆောက်မှု ကုန်ကျစရိတ်) (နောက်ဆက်တွဲဇယား-၂) | ၂,၀၆၇.၀၀ |
| (၄) | စက်ပစ္စည်းကရိယာများ(နောက်ဆက်တွဲဇယား-၃)US $ 17.75 (Million) | ၁၀၅.၄၂ |
| | စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၂,၁၈၂.၄၂ |

( စက်ပစ္စည်းကရိယာများကို BU GA CO., LTD သည် မလေးရှားနိုင်ငံ၊ TSB & SONS HOLDINGS SDN BHD မှ ရွေ့ဆိုင်းငွေ ပေးချေစနစ် (Deferred Payment System) အရ (၁၀)နှစ် အကြွေးဖြင့် တစ်နှစ်လျှင် ၈ ရာခိုင်နှုန်း အတိုးနှုန်းဖြင့် ဝယ်ယူ မည်ဖြစ်ပါသည်။

| | | | ကျပ် (သန်းပေါင်း) | အမေရိကန်ဒေါ်လာ (သန်းပေါင်း) |
|---|---|---|---|---|
| (ခ) | နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့် | | | |
| | (၁) | စက်ပစ္စည်းများ၊ စက်ကိရိယာများ၏ တန်ဖိုး | ၁၀၅.၄၂ | ၁၇.၅၇ |
| | (၂) | ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းတန်ဖိုး | - | - |
| | (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - |
| | | | ၁၀၅.၄၂ | ၁၇.၅၇ |

(ဂ) တည်ဆောက်မှုကာလ — ၄ နှစ်

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — ၆လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - ရေအားလျှပ်စစ်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ကချင်ပြည်နယ် ၊ ဝိုင်းမော်မြို့နယ်၊ မြစ်ကြီးနားမြို့နယ်။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ရေအားလျှပ်စစ်ထုတ်လုပ်ခြင်း

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

- ၁။ ဒီဇယ်ဆီ - ဂါလံ(၃၀၀၀၀)
- ၂။ ဓါတ်ဆီ - ဂါလံ( ၅၀၀၀)
- ၃။ စက်ဆီ၊ ချောဆီ - ဂါလံ( ၃၀၀)

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် -

- ၁။ လျှပ်စစ်ဓါတ်အား -
- ၂။ ဒီဇယ်ဆီအင်ဂျင်စက်အား -
- ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား -
- ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား -
- ၅။ ပေးပို့သည့် အခြားအား - (ရေအား/လေအားစသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက်

- ၁။ တစ်နေ့ ရေလိုအပ်ချက်ဂါလံ -
- ၂။ တစ်နှစ် ရေလိုအပ်ချက် -

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်- နောက်ဆက်တွဲဖယား (၄)

(ဇ) အဆောက်အဦး လိုအပ်ချက် — ဦးပိုင်အမှတ် N - ၁/ကွင်းအမှတ် OSS၊ ဖေါ့ဒေါ့ ကျေးရွာ၊ ဝိုင်းမော် မြို့နယ်တွင် တည်ဆောက်မည် ဖြစ်ပါသည်။

(ဈ) မြေနေရာ အမျိုးအစားနှင့်အကျယ်အဝန်း လိုအပ်ချက် — လန - ၃၉ မြေ၊ ၅၃၃ ဧက။

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ ဆောင်ရွက်မည့်ဝန်ဆောင်မှု — နောက်ဆက်တွဲဖယား(၅) ဓါတ်အား (၁၁၅)သန်းကီလိုဝပ် ထုတ်လုပ်၍ ဓါတ်အားလိုင်း (၄၅)မိုင် အရှည်ရှိပါသည်။

(ဋ) ရောင်းချမည့်စနစ် — ပြည်တွင်းရောင်းချမှု (၁၀၀) ရာခိုင်နှုန်း

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | ခန့်မှန်းခြေ ကျပ်ငွေ | ခန့်မှန်းခြေ နိုင်ငံခြားငွေ |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဖယား - | (၆) |
| (ခ) လိုအပ်မည့် နိုင်ငံခြားငွေ | နောက်ဆက်တွဲဖယား - | (၈) |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဖယား - | (၅) |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲဖယား - | (၅) |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ - နောက်ဆက်တွဲဖယား -(၇)

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

(က) နှစ်စဉ် ဝင်ငွေရရှိမှု — နောက်ဆက်တွဲဖယား -(၈)

(ခ) နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် — နောက်ဆက်တွဲဖယား -(၈)

(ဂ) နှစ်စဉ် အသားတင်အမြတ် — နောက်ဆက်တွဲဖယား -(၈)

(ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု — နောက်ဆက်တွဲဖယား -(၉)

(င) အရင်းကျေကာလ — နောက်ဆက်တွဲဖယား -(၁၀)

(စ) အခြား အကျိုးအမြတ်များ — နောက်ဆက်တွဲဖယား -(၁၁-၁၂)

(ဆ) အလုပ်အကိုင်သစ်များပေါ် ပေါက်လာမည့်အခြေအနေ — နောက်ဆက်တွဲဖယား -(၇)

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်း ဖြစ်ပါက သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း / ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်း နှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်း ဖြစ်ပါက လက်ရှိခြေအနေ နှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

( လျှောက်ထားသူ )

လက်မှတ်၊ [signature]

အမည်၊ ဒေါက်တာ လဂျာ

ရာထူး၊ အုပ်ချုပ်မှုဒါရိုက်တာ
**BU GA COMPANY LIMITED.**

# BU GA COMPANY LIMITED.

## LIST OF EXECUTIVES OF BU GA COMPANY LIMITED.

Exhibit No.I

| Sr No | Name | Citizenship N.R.C No/ Passport No | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | ဘူးဂါး ကုမ္ပဏီ လီမိတက် ကို ကိုယ်စားပြုသူများ | | | | ကျပ်(၂၀၆၇)သန်း | 100% |
| ၁ | ဒေါက်တာလကျာ | ၁/ မကန (နိုင်) ၁၀၂၇၄၉ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်-၄၄၅၊ ယုဇန ရပ်ကွက်၊ မြစ်ကြီးနား မြို့နယ်။ | | |
| ၂ | ဦးဇောင်းခေါင် | ၁/ မကန (နိုင်) ၀၇၀၁၃၇ | ဒါရိုက်တာ | အမှတ်-၂၇၄၊ ကျွန်းပင်သာ ရပ်ကွက်၊ မြစ်ကြီးနား မြို့နယ်။ | | |
| | | | | စုစုပေါင်း ရင်းနှီးငွေ | ကျပ်(၂၀၆၇)သန်း | 100% |

**BU GA COMPANY LIMITED.**

VALUE OF CONSTRUCTION FOR THE PROJECT

Exhibit No.II

(Kyats In Million)

| Sr No | Description | Dimension | No. of Building | Value | | |
|---|---|---|---|---|---|---|
| | | | | US $ | Kyats | Total Kyats |
| ( A ) | **Construction Cost** | | | | 2,067.00 | 2,067.00 |
| | TOTAL (A) | | | | **2,067.00** | **2,067.00** |
| ( B ) | **Construction Materials**<br>(Deferred Payment System) | | | 17.57 | | 105.42 |
| | TOTAL (B) | | | **17.57** | **-** | **105.42** |
| | TOTAL (A) + (B) | | | | | **2,172.42** |

# TABAK HYDRO-ELECTRIC POWER PROJECT



# BU GA COMPANY LIMITED.

## LIST OF MACHINERIES, EQUIPMENTS AND MATERIALS

Exhibit No. III
Sheet No.1

| Sr. No. | Particulars | Qty | Unit | Unit Price In US$ | Value In US$ |
|---|---|---|---|---|---|
| A | **EQUIPMENT(GATE)** | | | | |
| 1 | Radial gate (Under Sluice)(2x30'Wx15.5'h) | 2 | Nos | 130000 | 260,000 |
| 2 | Slide gate (Inlet) (5x8.5'Wx7'h) | 5 | Nos | 3200 | 16,000 |
| 3 | Slide gate (Intake) (4x8.5'Wx8.5'h) | 4 | Nos | 3200 | 12,800 |
| 4 | Slide gate (Fish ladder & Sediment flushing gate) (2x8'Wx6'h) | 2 | No | 2800 | 5,600 |
| 5 | Trashrack (9'x8.5'Wx10'h) | 9 | No | 3200 | 28,800 |
| 6 | Stopping | | | | |
| | (a) Radial gate | 1 | No | 2500 | 2,500 |
| | (b) Slide gate | 11 | No | 1000 | 11,000 |
| | (c) Radial gate (Spare Parts) | 1 | Lot | 7600 | 7,600 |
| | (d) Slide gate (Spare Parts) | 1 | Lot | 2050 | 2,050 |
| B | **EQUIPMENT (POWER HOUSE)** | | | | |
| 1 | Francis Turbine (Vertical type) D1=1.2m,Hs=-0.027m, n=500rpm,H=71m,Q=11.33Cumec | 3 | Sets | 390,881 | 1,172,643 |
| 2 | Governor (Electro-Hydraulic System, auto/manual operable | 3 | Sets | 43,767 | 131,301 |
| 3 | Inlet butterfly value, by pass system and companion flange (D=2.5m) | 3 | Sets | 176,855 | 530,565 |
| 4 | Generate (Vertical Type) 8 mva,coss=0.8,v=11kv,n=500rpm with control and protection panels, neutral earthing devices (Nautral air cooling system preferable) | 3 | Units | 718,165 | 2,154,495 |
| 5 | Oil pressure device (Auto/manual control system) with storage air tank and piping system, values etc. | 3 | Units | 17,126 | 51,378 |
| 6 | Excitation system (Brushless type) with excitation transformer, auto/manual voltage regulators and necessary control and protection devices. | 3 | Units | 84,915 | 254,745 |
| 7 | Auxillary and common system for Turbines, Generators, Inlet values cooling system, Piping and Drainage system, etc. | 1 | Lot | 231,998 | 231,998 |
| 8 | Powerhouse overhead crane (50/10t) with horizontal movable and control system. | 1 | Set | 149,677 | 149,677 |
| C | **66 KV SWITCHYARD** | | | | |
| 1 | 66 KV out going Feeder, complete with | 1 | Lot | 102,036 | 102,036 |
| | (a) DS with Earthing devices | 1 | Set | 7,050 | 7,050 |
| | (b) Gas circuit braker | 1 | Set | 51,200 | 51,200 |
| | (c) DS with Earthing devices | 1 | Set | 8,750 | 8,750 |
| | (d) Synchroniryeing PT | 1 | Set | 20,500 | 20,500 |
| | (e) CT 200-400/5/5A | 1 | Set | 25,140 | 25,140 |
| | (f) Lightening arrestor | 1 | Set | 10,555 | 10,555 |
| | (g) Connectors and joins insulator | 1 | Lot | 6,800 | 6,800 |
| 2 | Main Transformers. 66/11KV, 10,000KV a 3 phase, 50HZ, Ynd (Neutral grounded) with Nitrogen sealed conservator, Fan cooling type and necessary protection devices. | 2 | Units | 180,000 | 360,000 |
| 3 | 66 KV bay complete with | 1 | Lot | 150,142 | 150,142 |
| | (a) DS with Earthing devices | 3 | Sets | 8,750 | 26,250 |
| | (b) Gas circuit braker | 3 | Sets | 502,000 | 1,506,000 |
| | (c) CT 200-400/5/5A | 3 | Sets | 25,140 | 75,420 |
| | (d) 66 KV Bus A1 Conductors, insulator and joints etc. | 1 | Lot | 6,500 | 6,500 |
| | (e) 66 KV Lightening arrestor with surge counters | 1 | Set | 10,555 | 10,555 |
| | (f) PT 66/3/ 0.1/ 3/ 0.1 KV | 1 | Set | 20,500 | 20,500 |
| | Sub-Total (1) | | | | 7,410,550 |

# BU GA COMPANY LIMITED.

## LIST OF MACHINERIES, EQUIPMENTS AND MATERIALS

Exhibit No. III
Sheet No.2

| Sr. No. | Particulars | Qty | Unit | Unit Price In US$ | Value In US$ |
|---|---|---|---|---|---|
| D | **11KV SWITCH GEAR ROOM** | | | | |
| 1 | 11 kv Indoor switchgeas with | 1 | Lot | 197,330 | 197,330 |
| | (a) TR Incoming cubicle (Drawnout type) mounted with VCB and CT 600/5/5A | 3 | Sets | 20,000 | 60,000 |
| | (b) 11KV Feeder cubicle (Drawout type) mounted with VCB CT 150/5A and Arrestors | 4 | Sets | 21,500 | 86,000 |
| | (c) Auxillary and Residential Feeder cubicles (Drawout type) mounted with VCB, CT 600/5A | 3 | Sets | 20,000 | 60,000 |
| | (d) Bus coupler cubicle (Drawout type) mounted with VCB, CT 500/5A and Arrestors | 1 | Set | 30,500 | 30,500 |
| | (e) Gen incoming cubicles (Drawout type) mounted with VCB, CT 500/5A Arrestors. | 3 | Sets | 20,000 | 60,000 |
| | (f) PT cubicles (Drawout type) mounted with PT 11/3/0.1/3/0.1 KV and Fuses | 3 | Sets | 12,300 | 36,900 |
| | (g) Surge absorber (include in 12.6) | 3 | Sets | 12,300 | 36,900 |
| 2 | Auxillary and Residential Tr 11/10.4 KV 300 Kva dyn | 3 | Nos | 205,000 | 615,000 |
| E | **CONTROL ROOM** | 1 | Lot | 150,142 | 150,142 |
| 1 | 400 V Distribution panels complete with main switch, Bus coupler between Auxillary Tr and emergency Generator, Distribution main switch for each Auxillary equipment with Amp meters & volt meters | 1 | Lot | 48,000 | 48,000 |
| 2 | Control protection and Meter Panels | 1 | Lot | 250,000 | 250,000 |
| | (a) Generator panel | 1 | No | 58,900 | 58,900 |
| | (b) 66 KV Outgoing panel | 1 | No | 35,200 | 35,200 |
| | (c) Main transformer panel | 1 | No | 28,675 | 28,675 |
| | (d) Synchronirying panel | 1 | No | 15,500 | 15,500 |
| | 11 KV Auxillary Resdential Feeder panels (include in the item 12.1) | | | | |
| | (e) TR Incoming cubicle (Drawout type) mounted with VCB and CT 600/5/5A | 1 | No | 60,000 | 60,000 |
| | (f) 11 KV Outgoing Feeder panels | 1 | No | 105,000 | 105,000 |
| | (g) Supervisory desk with meters & signal lamps fault signal, mimic bus, Anumciator etc. | 1 | No | 50,840 | 50,840 |
| 3 | DC System (10V) | 1 | Lot | 50,330 | 50,330 |
| | (a) Battery Banks with 55 cells 90 Ah Ni ol type | 3 | Banks | 13,528 | 40,585 |
| | (b) Battery charger Thyristor Rectifier type | 3 | Sets | 66,500 | 199,500 |
| | (c) DC Distribution Panel | 1 | Set | 29,205 | 29,205 |
| 4 | Power line carrier and communication system inclusive of | 1 | Lot | 114,780 | 114,780 |
| | (a) PLC equipment to be connected with 6.6 KV line | 1 | Lot | 50,120 | 50,120 |
| | (b) Telephone despatching Board with 20 telephones & lines | 1 | Lot | 35,110 | 35,110 |
| | (c) AC/DC , Invertor | 1 | Lot | 6,000 | 6,000 |
| | (d) Telephone cable, 10 pairs 100m | 1 | Lot | 2,762 | 2,762 |
| | (e) Twin 200m | 1 | Lot | 4,524 | 4,524 |
| | (f) Testing meter, tools & spares | 1 | Lot | 15,500 | 15,500 |
| 5 | Emergency Diesel Generator Unit 2000 KW-400V-50Hz with auto change-over system and control panel | 1 | Lot | 61,550 | 61,550 |
| | Sub-Total (2) | | | | 2,594,853 |

# BU GA COMPANY LIMITED.

## LIST OF MACHINERIES, EQUIPMENTS AND MATERIALS

Exhibit No. III
Sheet No.3

| Sr. No. | Particulars | Qty | Unit | Unit Price In US$ | Value In US$ |
|---|---|---|---|---|---|
| F | **OTHERS** | | | | |
| 1 | (a) Power and control cables | 1 | Lot | 255,000 | 255,000 |
| | Cable Accessories inclusive of cable trays, brackets. | | | | |
| | (b) embedded pipe,cable lugs and sealiong,termination etc | 1 | Lot | 140,100 | 140,100 |
| | (c) Gantry structures for outdoor switchyard | 1 | Lot | 72,345 | 72,345 |
| | Supporting structures for equipment (included in item 9+11) | | | | |
| | (d) Lighting system for powerhouse and outdoor switchyard | 1 | Lot | 14,830 | 14,830 |
| | (e) Earthing system of plants | 1 | Lot | 18,056 | 18,056 |
| | (f) Pipe, Fitting, Valvesd etc (include in item 19(ii)) | 1 | Lot | 8,539 | 8,539 |
| | (g) Lighting protesting system | 1 | Lot | 8,900 | 8,900 |
| 2 | Air condition, Ventilation system split type, suitable for control room and communication room. | 1 | Lot | 162,490 | 162,490 |
| 3 | Testing equipment (Inclusive of AVO meters, Earth Tester, Insulation megga tester with 100V and 2000V, Clamp on Amps meter, Techometer, Digital Multi Tester, Frequency Oscittator etc. | 1 | Lot | 4,000 | 4,000 |
| 4 | Tools | 1 | Lot | 9,400 | 9,400 |
| | Erection Tools | 1 | Lot | 4,000 | 4,000 |
| | Maintenance Tools | 1 | Lot | 4,000 | 4,000 |
| 5 | Spares (Spares parts sufficient for 3 years) | 1 | Lot | 68,500 | 68,500 |
| 6 | Water level indication system | 1 | Lot | 69,005 | 69,005 |
| 7 | Radio Telephone (Wireless) | 2 | Sets | 3,806 | 7,612 |
| 8 | Temporary supports for erection and installation | 1 | Lot | 21,555 | 21,555 |
| G | **PENSTOCK** | | | | |
| 1 | Accessories | 1 | Lot | 495,572 | 495,572 |
| | Guaging carbon stick | 1 | Lot | 4,885 | 4,885 |
| | Anticorrosive paint (inside 3 coats) | 1 | Lot | 72,923 | 72,923 |
| | Water stop (300 mm x 7mm) | 1 | Lot | 8,022 | 8,022 |
| | Ultra-Sonic Flaw Detector | 1 | Lot | 9,144 | 9,144 |
| | Welding Transformer (DC 400 Amps) | 1 | Lot | 23,338 | 23,338 |
| | Gauging Transformer (DC 630 Amps) | 1 | Lot | 8,022 | 8,022 |
| 2 | Supervision | 1 | Lot | 40,600 | 40,600 |
| H | **EQUIPMENTS & MATERIALS** | | | | |
| 1 | Power Intake | | | | - |
| | (a) Transhrock for Power Intake | 1 | Lot | 140,000 | 140,000 |
| | (b) Embedded Parts of Transhrock | 1 | Lot | 112,800 | 112,800 |
| | (c) Emergency Gate | | | | |
| | (d) Emergency Gate with Tiebar & Water Seal | 2 | Lots | 8,976 | 17,952 |
| | (e) Emergency Parts of Emergency Gate | 2 | Lots | 88,400 | 176,800 |
| | (f) Service Gate | | | | |
| | (g) Service Gate with Tiebar & Water Seal | 1 | Lot | 66,976 | 66,976 |
| | (h) Embedded Parts of Service Gate | 2 | Lots | 32,480 | 64,960 |
| | Sub-Total (3) | | | | 2,110,326 |

# BU GA COMPANY LIMITED.

## LIST OF MACHINERIES, EQUIPMENTS AND MATERIALS

Exhibit No. III

Sheet No.4

| Sr. No. | Particulars | Qty | Unit | Unit Price In US$ | Value In US$ |
|---|---|---|---|---|---|
| 2 | Lifting, Operating Mechanism | | | | |
| | (a) Intake Gate Crane | 1 | Set | 217,800 | 217,800 |
| | (b) Rail and Fittings for above Crane | 1 | Lot | 36,828 | 36,828 |
| | (c) Tailrace Gate Gantry Crane | 1 | Set | 36,760 | 36,760 |
| | (d) Rails, Fixture and connector for above Crane | 1 | Lot | 12,762 | 12,762 |
| | (e) Trashrock Hoist | 1 | Set | 95,040 | 95,040 |
| | (f) Rail and Fittings for Transhrock Hoist | 1 | Set | 31,680 | 31,680 |
| | (g) Operation Mechanism for Emerhency Gate | 2 | Sets | 70,290 | 140,580 |
| | (h) Hydraulic Pumping for Emergency Gate | 1 | Lot | 99,050 | 99,050 |
| | (i) Operation Mechanism for Irrigable Radial Gate | 1 | Set | 57,420 | 57,420 |
| | (j) Hydraulic Pumping for Radial Gate | 1 | Set | 68,706 | 68,706 |
| 3 | Tailrace | | | | - |
| | (a) Tailrace Bulkhead Gate | 1 | Lot | 30,069 | 30,069 |
| | (b) Embedded Parts of Bulkhead Gate | 1 | Lot | 13,139 | 13,139 |
| | | | | | - |
| I | **TRANMISSION LINE (33 KV Tranmission Line, S-ckt)** | | | | - |
| 1 | ACSR Conductor | 309 | Ton | 5,000 | 1,545,000 |
| 2 | Insulators | | | | - |
| | (a) Pin Insulator | 1863 | Pcs | 20 | 37,260 |
| | (b) Tension Disc Insulator String | 420 | String | 65 | 27,300 |
| 3 | Steel Structure | | | | - |
| | (a) Cross Arm | 761 | Pcs | 40 | 30,440 |
| | (b) Brace | 1382 | Pcs | 45 | 62,190 |
| | (c) Bracket | 691 | Pcs | 25 | 17,275 |
| 4 | Pole Guy | | | | - |
| | (a) Guy Wire | 5 | Pcs | 1,600 | 8,000 |
| | (b) Guy Strain Insulator | 420 | Pcs | 2 | 840 |
| | (c) Guy Anchor Pole | 420 | Pcs | 15 | 6,300 |
| | (d) U Clamp, Non-Adjustable | 420 | Pcs | 9.2 | 3,864 |
| | (e) U Clamp, Adjustable | 420 | Pcs | 12.8 | 5,376 |
| 5 | Line Fittings | | | | - |
| | (a) Parallel Groove Clamp | 210 | Pcs | 10 | 2,100 |
| | (b) Splicing Sleeve | 200 | Pcs | 12 | 2,400 |
| | (c) Repair Sleeve | 200 | Pcs | 7 | 1,400 |
| | (d) Aluminium Binding Tape | 60 | Kg | 12 | 720 |
| | (e) Aluminium Wire | 60 | Kg | 12 | 720 |
| 6 | Bolt, Nut and Washers | 2900 | Kg | 2.4 | 6,960 |
| | Sub-Total (4) | | | | 2,597,979 |

## BU GA COMPANY LIMITED.

### LIST OF MACHINERIES, EQUIPMENTS AND MATERIALS

Exhibit No. III
Sheet No.5

| Sr. No. | Particulars | Qty | Unit | Unit Price In US$ | Value In US$ |
|---|---|---|---|---|---|
| J | **AYEYAWADY RIVER CROSSING, SPAN 1000 M (3048'), 66 KV, D-CKT** | | | | |
| 1 | Suspension Tower, Self-support | 2 | Base | 413,000 | 826,000 |
| 2 | Anchor Tower, Self-Support | 4 | Base | 29,700 | 118,800 |
| 3 | Ground Bolt | 5 | Ton | 1,000 | 5,000 |
| 4 | Stell material to connect the Tower and Foundation | 20 | Ton | 1,600 | 32,000 |
| 5 | Conductor | 25.36 | Ton | 5,500 | 139,480 |
| 6 | Earthing (GL) Wire | 6.66 | Ton | 1,600 | 10,656 |
| 7 | Insulator | 800 | Pcs | 26 | 20,800 |
| 8 | Line Fittings | | | | - |
| | (a) Conductor Suspension Clamp | 12 | Pcs | 100 | 1,200 |
| | (b) E-Wire Suspension Clamp | 4 | Pcs | 80 | 320 |
| | (c) Conductor Tension Clamp | 12 | Pcs | 100 | 1,200 |
| | (d) E-Wire Tension Clamp | 10 | Pcs | 80 | 800 |
| | (e) Other Fittings | 1 | Lot | 60,995 | 60,995 |
| 9 | Earthing Steel Bar | 2 | Ton | 1,426 | 2,852 |
| K | **SUB-STATION EXTENSION** | | | | |
| 1 | 33 KV Equipment | | | | - |
| | (a) SF 6 Circuit Braker | 4 | Sets | 30,400 | 121,600 |
| | (b) Disconnecting Switch (1) | 4 | Sets | 2,000 | 8,000 |
| | (c) Disconnecting Switch (2) | 4 | Sets | 2,200 | 8,800 |
| | (d) Current Transformer | 12 | Pcs | 1,200 | 14,400 |
| | (e) HF Preventing Reactor | 3 | Pcs | 2,200 | 6,600 |
| | (f) Capacitor PT | 12 | Pcs | 1,200 | 14,400 |
| 2 | 33 KV Bus PT Unit | | | | - |
| | (a) Voltage Transformer | 3 | Pcs | 1,200 | 3,600 |
| | (b) Terminal Box of PT | 1 | Set | 1,000 | 1,000 |
| | (c) Disconnecting Switch | 1 | Set | 1,800 | 1,800 |
| | (d) Fuse | 3 | Pcs | 560 | 1,680 |
| | (e) Lightning Arrestor | 3 | Pcs | 800 | 2,400 |
| | (f) Lightning Arrestor | 12 | Pcs | 800 | 9,600 |
| | (g) Terminal Box for CB and CT | 5 | Sets | 1,000 | 5,000 |
| | (h) Terminal Box for PT | 4 | Sets | 1,000 | 4,000 |
| 3 | 33 KV Bus Materials | | | | |
| | (a) Tubular Bus | 60 | M | 24 | 1,440 |
| | (b) Post Type Insulator | 12 | Pcs | 72 | 864 |
| | (c) Suspension Insulator String | 6 | Sets | 82 | 492 |
| | (d) Tension Insulator String | 12 | Sets | 70 | 840 |
| | (e) ACSR Conductor | 360 | M | 6 | 2,160 |
| | (f) Connector and Fittings | 300 | Sets | 10 | 3,000 |
| | Mobile Crane 20 Tons with Boom Length 10 m | 1 | No | 150,000 | 150,000 |
| | Rear Dump Truck 7.0 m³ | 5 | No | 200,000 | 1,000,000 |
| | Trucks 400 Kg (With Cranes) | 3 | No | 30,000 | 90,000 |
| | Cable & Accessories | 1 | Lot | 184,513 | 184,513 |
| | Sub-Total (5) | | | | 2,856,292 |
| | **Grand Total** | | | | **17,570,000** |

# BU GA COMPANY LIMITED.

## ANNUAL MACHINERIES & EQUIPMENTS FOR MAINTENANCE

Exhibit No. IV

| Sr No. | Particulars | Qty | Rate US$ | Amount US$ (In 000) |
|---|---|---|---|---|
| 1 | Year - 1 | | | 600.0 |
| 2 | Year - 2 | | | 1100.0 |
| 3 | Year - 3 | | | 1100.0 |
| 4 | Year - 4 | | | 1100.0 |
| 5 | Year - 5 | | | 1100.0 |
| 6 | Year - 6 | | | 1100.0 |
| 7 | Year - 7 | | | 1100.0 |
| 8 | Year - 8 | | | 1100.0 |
| 9 | Year - 9 | | | 1100.0 |
| 10 | Year - 10 | | | 1100.0 |
| | **GRAND TOTAL IN US$** | | | **10500.0** |
| | **GRAND TOTAL IN KYATS** | | | **63000.0** |

Note :- (1) Exchange Rate 1 US$ = Kyats 6.00

# BU GA COMPANY LIMITED.

## PRODUCTION ENERGY

Exhibit No. V

| Sr No. | | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|
| 1 | | **PRODUCTION QTY (In Million)** | | | | | |
| | 1 | Firm Energy KWH | 100.00 | 115.00 | 115.00 | 115.00 | 115.00 |
| | 2 | Unit Sold Energy KWH | 70.00 | 80.00 | 90.00 | 90.00 | 90.00 |
| 2 | | **SALE QUANTITY (KWH In Million)** | | | | | |
| | 1 | Ministry | 5.60 | 6.66 | 6.66 | 6.66 | 6.66 |
| | 2 | Public | 19.35 | 24.20 | 30.20 | 30.20 | 30.20 |
| | 3 | Service & Pensioner | 1.05 | 1.14 | 1.14 | 1.14 | 1.14 |
| | 4 | Business * | 44.00 | 48.00 | 52.00 | 52.00 | 52.00 |
| 3 | | **SALE PRICE (Kyats / KWH)** | | | | | |
| | 1 | Ministry | 0.50 | 0.50 | 0.50 | 0.50 | 0.50 |
| | 2 | Public | 10.00 | 10.00 | 10.00 | 10.00 | 10.00 |
| | 3 | Service & Pensioner | 2.00 | 2.00 | 2.00 | 2.00 | 2.00 |
| | 4 | Business * | 32.00 | 32.00 | 32.00 | 32.00 | 32.00 |
| 4 | | **SALE VALUE (Kyats In 000)** | | | | | |
| | 1 | Ministry | 2800.00 | 3330.00 | 3330.00 | 3330.00 | 3330.00 |
| | 2 | Public | 193500.00 | 242000.00 | 302000.00 | 302000.00 | 302000.00 |
| | 3 | Service & Pensioner | 2100.00 | 2280.00 | 2280.00 | 2280.00 | 2280.00 |
| | 4 | Business * | 1408000.00 | 1536000.00 | 1664000.00 | 1664000.00 | 1664000.00 |
| 5 | | **Total Local Sale Value In Kyats** | **1606400.00** | **1783610.00** | **1971610.00** | **1971610.00** | **1971610.00** |

မှတ်ချက် (၁) အစိုးရဌာနများ၊ အများပြည်သူ၊ ဝန်ထမ်း/အငြိမ်းစားများအား လက်ရှိမြန်မာ့ လျှပ်စစ်လုပ်ငန်းမှ ကောက်ခံလျက်ရှိသော နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

(၂) စီးပွားရေးလုပ်ငန်းများနှင့် တလလျှင် ၂၀၀ ယူနစ်အထက် သုံးစွဲသော အများပြည်သူ၊ ဝန်ထမ်း/အငြိမ်းစားများအား ၃၂ ကျပ် နှုန်းထားဖြင့် ကောက်ခံမည် ဖြစ်ပါသည်။

(၃) အများပြည်သူ တစ်ယူနစ် ၁၀ ကျပ်နှုန်းနှင့် ဝန်ထမ်း/အငြိမ်းစား တစ်ယူနစ် ၂ ကျပ်နှုန်းတို့သည် လက်ရှိမြန်မာ့ လျှပ်စစ်လုပ်ငန်းမှ နှုန်းထားများအား ပျမ်းမျှ ယူထားခြင်း ဖြစ်ပါသည်။ နောင်တွင် နိုင်ငံတော်မှ အခါအားလျော်စွာ ပြောင်းလဲ သတ်မှတ်ခြင်း ပြုခဲ့ပါလျှင် ပြောင်းလဲသည့် နှုန်းထားများဖြင့် ကောက်ခံမည် ဖြစ်ပါသည်။

**Deferred Payment Loan Agreement** ဖြင့်ဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းကိရိယာများ တန်ဖိုးအမေရိကန်ဒေါ်လာ (၁၇. ၅၇)သန်းကို ပြန်လည်ပေးဆပ်ခြင်းအစီအစဉ်နှင့် ပတ်သက်၍ ရှင်းလင်းဖော်ပြချက်

၁။ ဖော်ပြပါ အဆိုပြုရေအားလျှပ်စစ်ဓါတ်အားပေးစက်ရုံတည်ဆောက်ရေးစီမံကိန်းအတွက် လိုအပ်သော အမေရိကန်ဒေါ်လာ (၁၇. ၅၇) သန်းတန်ဖိုးရှိသော စက်ပစ္စည်းကိရိယာများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ဆောက်လုပ်ရေးပစ္စည်းများကို မလေးရှားနိုင်ငံ **TSB & SONS HOLDINGS SDN BHD, MALAYSIA** ကုမ္ပဏီမှ **Deferred Payment Loan Agreement** ဖြင့်ဝယ်ယူတင်သွင်း၍ဆယ်နှစ်ဖြင့် ပြန်လည်ပေးဆပ်ရန် တစ်နှစ်လျှင် (၈) ရာခိုင်နှုန်းအတိုးဖြင့် လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၂။ အဆိုပါချေးငွေပြန်လည်ပေးဆပ်ရန်နှင့် ကျသင့်အတိုးငွေများပေးချေရာတွင်လည်း ကျွန်တော်တို့ ကုမ္ပဏီလီမိတက်ပိုင် သစ်အခြေခံ တန်ဖိုးမြှင့်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း (၂)ခုမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေအပြင် ကုမ္ပဏီပိုင်အခြားလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေဖြင့်လည်း ပေးဆပ်သွားမည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ ကုမ္ပဏီပိုင် သစ်အခြေခံတန်ဖိုးမြှင့်ကုန်ချောပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းတို့မှာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် မနသ-၂၅၅/၉၉ နှင့် မနသ-၂၅၆/၉၉ တို့အရ တရားဝင် ခွင့်ပြုမိန့်ရရှိထားပြီး လက်ရှိလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော လုပ်ငန်းများဖြစ်ပါသည်။

## BU GA COMPANY LIMITED.

**Deferred Payment Loan Agreement** ဖြင့်ဝယ်ယူတင်သွင်းမည့်စက်ကရိယာများတန်ဖိုး အမေရိကန်ဒေါ်လာ (၁၇.၅၇)သန်းနှင့် နှစ်အလိုက် အတိုးကို ပြန်လည်ပေးဆပ်မည့် အစီအစဉ်ဇယား

အမေရိကန်ဒေါ်လာ(၀၀၀)

| စဉ် | နှစ် | ပေးဆပ်မည့်အစီအစဉ် | | | | ပေးဆပ်ရမည့်တန်ဖိုး | | |
|---|---|---|---|---|---|---|---|---|
| | | မိုးခေါက်မြို့နယ် ကျခန်းဒတ်ကျေးရွာ သစ်စက် | မိုးညှင်းမြို့နယ် နန့်ပုတ်ကျေးရွာ သစ်စက် | အခြား လုပ်ငန်းများ | စုစုပေါင်း | အရင်း | အတိုး | စုစုပေါင်း |
| ၁ | ပထမနှစ် | 375.00 | 88.00 | 2699.60 | 3162.60 | 1757.00 | 1405.60 | 3162.60 |
| ၂ | ဒုတိယနှစ် | 375.00 | 88.00 | 2559.04 | 3022.04 | 1757.00 | 1265.04 | 3022.04 |
| ၃ | တတိယနှစ် | 383.00 | 97.00 | 2401.48 | 2881.48 | 1757.00 | 1124.48 | 2881.48 |
| ၄ | စတုတ္ထနှစ် | 366.00 | 48.00 | 2326.92 | 2740.92 | 1757.00 | 983.92 | 2740.92 |
| ၅ | ပဥ္စမနှစ် | 372.00 | 55.00 | 2173.36 | 2600.36 | 1757.00 | 843.36 | 2600.36 |
| ၆ | ဆဋ္ဌမနှစ် | 372.00 | 55.00 | 2032.80 | 2459.80 | 1757.00 | 702.80 | 2459.80 |
| ၇ | သတ္တမနှစ် | 372.00 | 55.00 | 1892.24 | 2319.24 | 1757.00 | 562.24 | 2319.24 |
| ၈ | အဋ္ဌမနှစ် | 372.00 | 55.00 | 1751.68 | 2178.68 | 1757.00 | 421.68 | 2178.68 |
| ၉ | နဝမနှစ် | 372.00 | 55.00 | 1611.12 | 2038.12 | 1757.00 | 281.12 | 2038.12 |
| ၁၀ | ဒသမနှစ် | 372.00 | 55.00 | 1470.56 | 1897.56 | 1757.00 | 140.56 | 1897.56 |
| | စုစုပေါင်း | **3731.00** | **651.00** | **20918.80** | **25300.80** | **17570.00** | **7730.80** | **25300.80** |

မှတ်ချက် :- အခြားလုပ်ငန်းများမှာ လက်ရှိကျောက်မျက် တူးဖော်ခြင်း လုပ်ငန်းနှင့် တိုးချဲ့လုပ်ကိုင်မည့် လုပ်ငန်းများ ပါဝင်မည် ဖြစ်ပါသည်။

**ဘူးဂါး ကုမ္ပဏီလီမိတက်**

<u>ရှင်းလင်းဖော်ပြချက်</u>

1. **Deferred Payment Loan Agreement** ဖြင့် ဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းကရိယာများ တန်ဖိုး အမေရိကန်ဒေါ်လာ (၁၇. ၅၇)သန်းကို တည်ဆောက်မှုကာလ (၄)နှစ်အတွင်း အောက်ပါအစီအစဉ်အတိုင်း ရယူမည်ဖြစ်ပါသည်။

**စက်ပစ္စည်းကိရိယာများရယူမည့် အစီအစဉ်**

**ဒေါ်လာသန်းပေါင်း**

| အကြောင်းအရာ | ပထမနှစ် ဒေါ်လာ | ဒုတိယနှစ် ဒေါ်လာ | တတိယနှစ် ဒေါ်လာ | စတုတ္ထနှစ် ဒေါ်လာ | စုစုပေါင်း ဒေါ်လာ |
|---|---|---|---|---|---|
| စက်ပစ္စည်းကရိယာများ | ၂. ၇၁၁ | ၄. ၇၄၆ | ၆. ၄၄၉ | ၃. ၆၆၄ | ၁၇. ၅၇ |

ယင်းသို့ တည်ဆောက်မှုကာလ (၄)နှစ်အတွင်း ရယူခဲ့သည့် စက်ပစ္စည်းကရိယာများ တန်ဖိုး အမေရိကန် ဒေါ်လာ (၁၇. ၅၇) သန်း အပေါ်တွင် တည်ဆောက်မှုကာလအတွင်း ရယူမှုများအပေါ် အတိုးမဲ့ထားရှိမည်ဖြစ်ပြီး ထုတ်လုပ်မှု စတင်မှသာ ယင်းအမေရိကန်ဒေါ်လာ (၁၇. ၅၇)သန်းပေါ်တွင် အတိုး ၈% စတင်ပေးချေရမည်ဖြစ်ပါသည်။

2. စက်ပစ္စည်း ကရိယာများ တန်ဘိုး (၁၇. ၅၇) သန်းကို တစ်နှစ်လျှင် ၈% အတိုးဖြင့် ၁၀ နှစ်ပေးချေရာတွင် အရင်းအတိုးစုစုပေါင်း ဒေါ်လာ (၂၅. ၃)သန်း ပေးချေရမည်ဖြစ်ပါသည်။ ယင်းသို့ပေးချေရာတွင် နိုင်ငံတော် အတွင်းမှ ထွက်ရှိသော ကုန်စည်များအား ပို့ကုန်အဖြစ် နိုင်ငံခြားသို့ တင်ပို့၍ ဒေါ်လာဝင်ငွေများရယူလျှင် တစ်ဒေါ်လာအတွက် (၃၅ဝ/-)ခန့် ကုန်ကျမည်ဖြစ်ပါသည်။ သို့ဖြစ်ပါက ယခုလျာထားသည့် လျှပ်စစ် တစ်ယူနစ်အပေါ် (၂၄/-) ကောက်ခံမှုအစား (၃၄/)ခန့် ကောက်ခံရမည်ဟု ခန့်မှန်းပါသည်။

| | | |
|---|---|---|
| ပေးချေရမည့် စုစုပေါင်း အတိုးအရင်း | = | $ ၂၅၃၀၀၈၀၀ |
| ပို့ကုန်အတွက် ကုန်ကျမည့်ကျပ်ငွေ | = | ၈,၈၅၅,၂၈၀,၀၀၀ ကျပ် |
| စုစုပေါင်းအသုံးပြုခဲ့သော လျှပ်စစ်ယူနစ် | = | ၈၇၀,၀၀၀,၀၀၀ |
| တစ်ယူနစ်တိုးမြှင့်ကောက်ခံရမည့်နှုန်း | = | ၈,၈၅၅,၂၈၀,၀၀၀ |
| | | ၈၇၀,၀၀၀,၀၀၀ |
| | = | ၁၀. ၁၇၈ ကျပ် |
| | = | ၁၀ ကျပ် |
| တစ်ယူနစ်ကောက်ခံရမည့်နှုန်း | = | မူလနှုန်း + တိုးမြှင့် ကောက်ခံရမည့်နှုန်း |
| | = | ၂၄/- + ၁ဝ/- |
| | = | ၃၄/- |

3. အဆိုပြုရေအားလျှပ်စစ်လုပ်ငန်း စတင်လည်ပတ်ရာတွင် နှစ်စဉ်ပြုပြင်ထိန်းသိမ်းရန်အတွက် လိုအပ်သောစက်ပစ္စည်းကရိယာများအား ပြည်တွင်း၌ ရရှိနိုင်ပါက ပြည်တွင်းမှပင် (ကျပ်ငွေဖြင့်) ဝယ်ယူအသုံးပြုမည် ဖြစ်ပြီး ပြည်တွင်း၌ မရရှိနိုင်သော စက်ပစ္စည်းကရိယာများကိုသာ ပြည်ပမှ ဝယ်ယူတင်သွင်းမည် ဖြစ်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဦးစီးဌာန

စာအမှတ်၊ ၂၂၉/၁/ထ (၀၈၅/၂၀၀၀)
နေ့စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ (၁၆) ရက်။

အကြောင်းအရာ ။ **လျှပ်စစ်ဆိုင်ရာလုပ်ငန်းများလုပ်ကိုင်ခွင့်ပြုခြင်း။**
ရည်ညွှန်းချက် ။ ဥက္ကဋ္ဌ၊ ကချင်အထူးဒေသ (၂) ၏ (၉-၂-၂၀၀၀) နေ့စွဲပါ တင်ပြစာ။

၁၉၉၇ ခုနှစ် ဩဂုတ်လ(၆)ရက်၊ ဗုဒ္ဓဟူးနေ့တွင် နယ်စပ်ဒေသနှင့် တိုင်းရင်းသား လူမျိုးများ ဖွံ့ဖြိုးတိုးတက်ရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၌ ကျင်းပသော ကချင်အထူး ဒေသ(၂) ဖွံ့ဖြိုးရေးလုပ်ငန်း ညှိနှိုင်းအစည်းအဝေးဆုံးဖြတ်ချက် အပိုဒ် (၁၂)နှင့် လျော်ညီစွာ ရည်ညွှန်းစာဖြင့် တင်ပြလာသော **တဘက်ချောင်း** ရေအားလျှပ်စစ်လုပ်ငန်းအား အောက်တွင် ဖော်ပြပါရှိသော စည်းကမ်းချက်များ၊ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ခွင့်ပြုလိုက်ပါသည်။

၁။ **သတ်မှတ်ချက်များ**

| | | |
|---|---|---|
| (က) | ဆောင်ရွက်ခွင့်ရရှိသည့်အဖွဲ့အစည်း | - ကချင်အထူးဒေသ (၂) |
| (ခ) | ဆောင်ရွက်ခွင့်ပြုသည့်နေ့စွဲ | - ၂၀၀၀ပြည့်နှစ် ဖေဖော်ဝါရီလ (၁၆) ရက် |
| (ဂ) | ဆောင်ရွက်ခွင့်ပြုသည့်နယ်မြေဒေသ | |
| | ပြည်နယ် | - ကချင်ပြည်နယ် |
| | မြို့နယ် | - မြစ်ကြီးနားမြို့နယ်၊ ဝိုင်းမော်မြို့နယ် |
| (ဃ) | ဆောင်ရွက်ခွင့်ပြုသည့်အများဆုံးထုတ်လုပ်ရမည့်ဓာတ်အားပမာဏ | - (၂၄) မဂ္ဂါဝပ် |
| (င) | ဓာတ်အားပေးစက်ရုံတည်ဆောက်မည့်ဒေသမှ ဓာတ်အားပေးရမည့် နယ်နမိတ်အထိ သွယ်တန်းရန် ခွင့်ပြုသည့်ဓာတ်အားလိုင်း | - တဘက်ချောင်းရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံမှ ဝိုင်းမော်မြို့နှင့် မြစ်ကြီးနားမြို့အထိအရှည် (၄၅) မိုင် 33 kV Double Circuit or 66 kV Single Circuit |

၂။ ကချင်အထူးဒေသ (၂) မှ ဆက်လက်ဆောင်ရွက်ရမည့်လုပ်ငန်းများ

(က) ဖော်ပြပါလုပ်ငန်းနှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံ ဆောင်ရွက်ခွင့်ရရှိရေးအတွက် ဥပဒေ၊ လုပ်ထုံးလုပ်နည်း နှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန နှင့် ညှိနှိုင်းတင်ပြရန် ။

(ခ) ဓာတ်အားထုတ်လုပ်ခြင်း၊ ဓာတ်အားပို့လွှတ်ခြင်း၊ ဓာတ်အားဖြန့်ဖြူးခြင်း အပိုင်းတို့တွင် စက်နှင့်အခြားပစ္စည်းကရိယာများဝယ်ယူခြင်း၊ တည်ဆောက်တပ်ဆင်ခြင်း မောင်းနှင်ခြင်း လုပ်ငန်းများ ဆောင်ရွက်ရာ၌ စနစ်တကျရှိစေရန်၊ ဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်စေရန်၊ လက်ရှိ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း၏ ဓာတ်အားပေးစနစ်နှင့် ချောမွေ့စွာ ယှဉ်တွဲမောင်းနှင်နိုင်ရန် တို့အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရန် ။

(ဂ) လုပ်ငန်းဆောင်ရွက်မည့် နယ်မြေဒေသအတွင်း နိုင်ငံတော်မှ ဆောင်ရွက်ထားသော/ ဆောင်ရွက်ရန်ရှိသော စီမံကိန်းများ ထိခိုက်မှုမရှိစေရေး၊ ဘာသာရေးအဆောက်အအုံများနှင့် အများပြည်သူ အကျိုးစီးပွား အနှောင့်အယှက် အပျက်အစီး မရှိစေရေး၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှု ထိခိုက်ခြင်း မရှိစေရေးတို့အတွက် ကချင်ပြည်နယ် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ အလုပ်အမှုဆောင်အဖွဲ့သို့ တင်ပြညှိနှိုင်းဆွေးနွေး၍ ရရှိသော သဘောတူညီချက်အား လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသို့ ပြန်လည် တင်ပြရန် ။

(ဃ) လုပ်ငန်းဆောင်ရွက်မည့် နယ်မြေဒေသအတွင်း တပ်မတော် ( ကြည်း၊ ရေ၊ လေ ) တပ်စခန်းများ၏ အဆောက်အအုံများတည်ရှိလျှင် ကာကွယ်ရေးဝန်ကြီးဌာန၊ မြောက်ပိုင်းတိုင်း စစ်ဌာနချုပ်သို့ တင်ပြ ညှိနှိုင်းဆွေးနွေး၍ ရရှိသော သဘောတူညီချက်အား လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသို့ ပြန်လည် တင်ပြရန် ။

(င) လက်ရှိ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း၏ ဓာတ်အားပေးစနစ်အား ဆက်လက်အသုံးပြုခြင်း နှင့် ပတ်သက်၍ အခကြေးငွေသတ်မှတ်ရန်အတွက် လည်းကောင်း၊ ဓာတ်အားသုံးစွဲသူများ ထံမှ တောင်းခံရမည့် ဓာတ်အားခ (မီးထွန်းခြင်း၊ စက်မှုသုံး)၊ စဘော်ငွေ၊ Infrastructure ကြေး၊ စသည့် ဘဏ္ဍာရေးဆိုင်ရာများ သတ်မှတ်ရန်အတွက်လည်းကောင်း မြန်မာ့လျှပ်စစ် ဓာတ်အားလုပ်ငန်းနှင့် ညှိနှိုင်းဆောင်ရွက်ရန် ။

၃။ <u>လိုက်နာဆောင်ရွက်ရမည့်ဥပဒေနှင့် ပြဋ္ဌာန်းချက်များ။</u>

(က) လျှပ်စစ်ဥပဒေပုဒ်မ ၁၃၊ ၁၄ နှင့် ၁၅ ပါပြဋ္ဌာန်းချက်များအား ဟိဂျမ္ဘာ လိုက်နာ ဆောင်ရွက်ရပါမည်။

(ခ) ကတ်အားထုတ်လုပ်ခြင်း၊ ကတ်အားပို့လွှတ်ခြင်း၊ ကတ်အားဖြန့်ဖြူးခြင်းတို့အတွက် အသုံးပြုသော လျှပ်စစ်ပစ္စည်းကိရိယာ တည်ဆောက်မှုဆိုင်ရာ နည်းစနစ်များသည် လျှပ်စစ်ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ ပြဋ္ဌာန်းချက်များအရ ဖြစ်ရမည့်အပြင် ခစ်ဆေးရေးမှူး၏ စစ်ဆေးစမ်းသပ်ခြင်း ကို ခံယူရပါမည်။

ညွှန်ကြားရေးမှူးချုပ်
( ဇော်ဝင်း )

<u>ဥက္ကဌ</u>
<u>ကချင်အထူးဒေသ(၂)</u>

မိတ္တူကို
(၁) နယ်စပ်ဒေသနှင့် တိုင်းရင်းသားလူမျိုးများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
(၂) မြောက်ပိုင်းတိုင်းစစ်ဌာနချုပ်
(၃) ကချင်ပြည်နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
(၄) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
(၅) မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း
(၆) ဒေသန္တရစက်မှုလက်မှုကြီးကြပ်ညှိနှိုင်းရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားရေးဦးစီးဌာန

**မူကြမ်း**

**ပဋိညာဉ် စာချုပ်အမှတ် (    )**

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

နှင့်

ဘူးဂါး ကုမ္ပဏီ လီမိတက်

တို့

မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင်

မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း၏ ကိုယ်စား

ဓာတ်အားထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း ပဋိညာဉ် စာချုပ်

နေ့စွဲ၊ ၂၀၀၁ ခုနှစ်၊ ............လ (    ) ရက်

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**
**ပဋိညာဉ်စာချုပ်အမှတ် (      )**

<u>မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း၏ ကိုယ်စား</u>

<u>ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း ပဋိညာဉ်စာချုပ်</u>

ဤပဋိညာဉ်စာချုပ်ကို ......... ......... ရက်၊ ......... ......... ......... လ၊ ......... ...... နှစ်တွင် ရန်ကုန်မြို့၌ အမှတ် ၁၉၇-၁၉၉၊ အောက်ကြည့်မြင်တိုင်လမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့ရှိ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ ဦးဆောင်ညွှန်ကြားရေးမှူး၊ ......... ......... ......... ......... ......... ကိုယ်စားပြုသော မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း ကတစ်ဖက်

နှင့်

အမှတ် (၄၄၆)၊ ယုဇနရပ်ကွက်၊ မြစ်ကြီးနားမြို့ရှိ မန်းနေဂျင်း ဒါရိုက်တာ ......... ......... ......... ကိုယ်စားပြုသော **ဘူးဂါး ကုမ္ပဏီ လီမိတက်** က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ကြရန်အတွက် နှစ်ဦး နှစ်ဖက် ရေးသားချုပ်ဆိုကြပါသည်။

မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းကို "မြန်မာ့လျှပ်စစ်" ဟုလည်းကောင်း၊ ဘူးဂါးကုမ္ပဏီ လီမိတက်ကို "**ဘူးဂါး**" ဟု လည်းကောင်း နောင်တွင် ခေါ်တွင် စေရမည်။

("**မြန်မာ့လျှပ်စစ်**" ဟုလည်းကောင်း၊ "**ဘူးဂါး**" ဟု လည်းကောင်း ခေါ်ဆိုရာတွင် ယင်းတို့ အပါအဝင် ယင်းတို့၏ ဆက်ခံမည့်သူများ တရားဝင် ကိုယ်စားလှယ်များ၊ ဥပဒေနှင့်အညီ ဆက်ခံခွင့်ရသူများလည်း ပါဝင်သည်ဟု မှတ်ယူရမည်။)

၁။ <u>ဆောင်ရွက်ရမည့် လုပ်ငန်းစဉ်များ</u>

(၁-၁) မြန်မာ့လျှပ်စစ်သည် မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များရှိ မြန်မာ့လျှပ်စစ်မှ ပိုင်ဆိုင်သောမြေများ၊ အဆောက်အဦးများ၊ စက်ကရိယာများ၊ ယာဉ်များ၊ ဓာတ်အားလိုင်းများ၊ ထရန်စဖော်မာများ၊ မီတာများ စသည့် ပစ္စည်း အရပ်ရပ်ကို ဘူးဂါးသို့ လွှဲပြောင်း လက်ခံစေ၍ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ကိုယ်စား ဓာတ်အား

ထုတ်လုပ် ဖြန့်ဖြူး ရောင်းချစေရမည်။ ဤသို့ လွှဲပြောင်း ပေးခြင်းသည် ပစ္စည်းများ ပိုင်ဆိုင်ခွင့်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ဘူးဂါးမှ လုပ်ငန်း ဆောင်ရွက်နိုင်ရန် လက်ခံခြင်းသာ ဖြစ်ရမည်။

(၁-၂) ဘူးဂါးသည် မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ပိုင် ပစ္စည်းကိရိယာများအပြင် (၃ × ၈) မဂ္ဂါဝပ် တပ်ဆင်အင်အားရှိသော ရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံနှင့် အခြားလိုအပ်သော စက်ကိရိယာများ၊ အဆောက်အဦးများ၊ယာဉ်များ ထပ်မံတည်ဆောက် ဖြည့်ဆည်းပြီးနောက်၊ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များ၌ လျှပ်စစ်ဓာတ်အား (၂၄) နာရီ အပြည့်အဝ ရရှိရေး အတွက် ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချရမည်။

(၁-၃) ဘူးဂါးသည် မိမိပိုင်ငွေဖြင့် အသုံးစရိတ် အားလုံးကို ကျခံ၍ ဓာတ်အား ထုတ်လုပ်ပြီး၊ မြန်မာ့လျှပ်စစ်နှင့် ညှိနှိုင်းပြီးဖြစ်၍ ဒေသ အာဏာပိုင်ထံ တင်ပြ အတည်ပြုထားပြီး ဖြစ်သည့် ဓာတ်အားခ နှုန်းထားများဖြင့် ဓာတ်အား ဖြန့်ဖြူး ရောင်းချ ရမည်။

(၁-၄) မြန်မာ့လျှပ်စစ်၏ (Good will) အမည်နာမနှင့် အဆောက်အဦး၊ ပစ္စည်းကိရိယာများနှင့် လုပ်ပိုင်ခွင့်များကို ဆက်လက် အသုံးပြုမှုအတွက် နှစ်ဖက်ညှိနှိုင်း သတ်မှတ်သော နှုန်းထားဖြင့် ထုတ်လုပ်သည့် ဓာတ်အား ကီလိုဝပ်နာရီ(ယူနစ်) အပေါ် တွက်ချက် ရရှိသော အသိုး အခ (Royalty) နှင့် မြန်မာ့လျှပ်စစ်ပိုင် မီတာများအတွက် သတ်မှတ်ထားသော မီတာထိန်းသိမ်း စောင့်ရှောက်ခများကို ဘူးဂါးမှ မြန်မာ့လျှပ်စစ်သို့ ပေးချေရမည်။

၂။ <u>အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း</u>

ဤစာချုပ် ချုပ်ဆိုသူများသည် စာချုပ်ကို ချုပ်ဆိုရန် ဥပဒေအရ အခွင့်အာဏာရှိသူများ၊ ငွေကြေးအင်အား ပြည့်စုံသူများ၊ လုပ်ပိုင်ခွင့်ရှိသူများဖြစ်ကြကြောင်း အသီးသီး အာမခံကြပါသည်။

၃။ <u>မြန်မာ့လျှပ်စစ်အတွက် အသိုးအခ (Royalty) သတ်မှတ် ပေးချေခြင်း</u>

(၃-၁) ဘူးဂါးသည် မြန်မာ့လျှပ်စစ်၏ (Good will) အမည်နာမနှင့် (Assets) ရပိုင်ခွင့်များ သုံးစွဲမှုအတွက် အသိုးအခ (Royalty) အဖြစ်၊ လစဉ် ထုတ်လုပ်ယူနစ် (Unit Generated) တစ်ယူနစ်လျှင် ကျပ် ၃.၀၀ (သုံးကျပ်) နှုန်းဖြင့် စုစုပေါင်း ထုတ်လုပ်ယူနစ်အပေါ် တွက်ချက်၍ လည်းကောင်း၊ သတ်မှတ်ထားသော မီတာထိန်းသိမ်း စောင့်ရှောက်ခများကို လည်းကောင်း၊ ဓာတ်အားသုံးစွဲသူများထံမှ ဘူးဂါးက လျှပ်စစ် ဓာတ်အားခ တောင်းခံသည့် လ၏ နောက်လ မကုန်မီ မြန်မာ့လျှပ်စစ်သို့ အကြေ ပေးဆောင်ရမည်။

(၃-၂) ယခုသတ်မှတ်ထားသော အသိုးအခ (Royalty) ကို ဘူးဂါး၏ အကျိုးအမြတ် ရရှိမှုအပေါ် အခြေခံ၍ နှစ်ဖက်ညှိနှိုင်း ပြင်ဆင် သတ်မှတ်နိုင်သည်။

၄။ <u>မြန်မာ့လျှပ်စစ်မှ ဆောင်ရွက်ရမည့် တာဝန်များ</u>

(၄-၁) မြန်မာ့လျှပ်စစ်မှ ပိုင်ဆိုင် လုပ်ပိုင်ခွင့်ရှိသည့် (Assets) ရပိုင်ခွင့်များဖြစ်သော မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ် လျှပ်စစ်အင်ဂျင်နီယာရုံး အဆောက်အဦးများ၊ စက်ကိရိယာများ၊ မော်တော်ယာဉ်များ၊ ဓာတ်အားလိုင်းများ၊ ထရန်စဖော်မာများ၊ မီတာများ၊ ရရန်ကြွေးကျန်စာရင်းများ၊ အာမခံ စဘော် စာရင်းများ စသည့် အရပ်ရပ်ကို စာရင်းများ ပြုစု၍ ညှိနှိုင်းသတ်မှတ်ထားသော နေ့ရက်အတွင်း မြန်မာ့လျှပ်စစ်မှ တာဝန်ပေးထားသည့်အဖွဲ့အား လွှဲပြောင်း ပေးရမည်။ ဤသို့ လွှဲပြောင်း ပေးခြင်းသည် ပစ္စည်းများ ပိုင်ဆိုင်ခွင့်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ဘူးဂါးမှ လုပ်ငန်း ဆောင်ရွက်နိုင်ရန် လက်ခံခြင်းသာ ဖြစ်ရမည်။

(၄-၂) မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များရှိ မြန်မာ့လျှပ်စစ် ဝန်ထမ်းများအနက် ဘူးဂါး၏ လက်အောက်တွင် ဆက်လက် တာဝန်ထမ်းဆောင်လိုသော ဝန်ထမ်းများအား ဘူးဂါးသို့ လွှဲပြောင်း ပေးရမည်။ အပိုဒ် (၇-၅) ပါအတိုင်း သတ်မှတ်ထားသည့် ကာလအတွင်း ပြန်ပို့ပါကလည်း မြန်မာ့လျှပ်စစ်မှ ပြန်လည် လက်ခံရမည်။

(၄-၃) ဤစာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်ခဲ့၍ ဘူးဂါးမှ ပေးဆောင်ရမည့် ပြည်တွင်းအခွန်အခများ သက်သာခွင့် ရရှိစေရန် မြန်မာ့လျှပ်စစ်မှ ကူညီ ဆောင်ရွက်ပေးရမည်။

(၄-၄) ဘူးဂါးသို့ လုပ်ငန်း ဆောင်ရွက်ရန် လွှဲပြောင်းပေးခဲ့သော အဆောက်အဦး စက်ပစ္စည်းကိရိယာများကို အပိုဒ် (၆-၂) အရ၊ ဘူးဂါးမှ ပြန်လည်အပ်နှံပါက မြန်မာ့လျှပ်စစ်မှ ပြန်လည် လက်ခံရမည်။

(၄-၅) မြန်မာ့လျှပ်စစ်သည် မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချရေး လုပ်ငန်းအတွက် လိုအပ်သော မီတာများ၊ ကျွမ်းကျင်မှုဆိုင်ရာ နည်းပညာနှင့် ပညာရှင်များကို ပံ့ပိုးကူညီ ပေးရမည်။

(၄-၆) လုပ်ငန်း ခွင့်ပြုခဲ့သည့် ကာလ ကုန်ဆုံး ပြီးနောက် ဘူးဂါးမှ လွှဲပြောင်း ပေးသည့် ဘူးဂါးကုမ္ပဏီပိုင် ပစ္စည်း ကိရိယာများ အားလုံးနှင့် မြန်မာ့လျှပ်စစ်မှ လွှဲပြောင်းပေးခဲ့သော ပစ္စည်းကိရိယာများကို မြန်မာ့လျှပ်စစ်မှ စနစ်တကျ ပြန်လည်လွှဲပြောင်း လက်ခံ ရမည်။

၅။ <u>ဘူးဂါးမှ ဆောင်ရွက်ရမည့် တာဝန်များ</u>

(၅-၁) ဘူးဂါးသည် မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်မှ လွှဲပြောင်းပေးသော ပစ္စည်းများနှင့် ဘူးဂါးကုမ္ပဏီပိုင် (၈) မဂ္ဂါဝပ် စက် (၃) လုံး တပ်ဆင်ထားသော ရေအားလျှပ်စစ် ဓာတ်အားပေး စက်ရုံ၊ အထောက်အကူပြု စက်ကိရိယာများဖြင့် လိုအပ်သော အခြားစရိတ်များ ကျခံလျက် ဓာတ်အားထုတ်လုပ် ဖြန့်ဖြူး ရောင်းချသည့် လုပ်ငန်းကို တာဝန်ယူ ဆောင်ရွက်ရမည်။

(၅-၂) မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် ဓာတ်အားထုတ်လုပ် ဖြန့်ဖြူး ရောင်းချရာ၌ မြန်မာနိုင်ငံ လျှပ်စစ်ဥပဒေနှင့် မြန်မာ့လျှပ်စစ်၏ တည်ဆဲ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများအတိုင်း ဆောင်ရွက်ရမည့်အပြင် မြန်မာ့လျှပ်စစ်မှ တောင်းခံသည့် စာရင်းဇယားများ၊ လချုပ်များ၊ နှစ်ချုပ်များကို ဘူးဂါးသည် မပျက်မကွက် ပေးပို့ရမည်။

(၅-၃) မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များတွင် ဓာတ်အားထုတ်လုပ် ဖြန့်ဖြူး ရောင်းချရေးအတွက် ထပ်မံလိုအပ်သော စက်ကိရိယာ ပစ္စည်းများကို ထပ်မံဝယ်ယူခြင်း၊ တိုးချဲ့တည်ဆောက်ခြင်းတို့ကို ဆောင်ရွက်ရမည်။ ထိုကဲ့သို့ ဆောင်ရွက်ခြင်းများကို မြန်မာ့လျှပ်စစ်အား ကြိုတင် အသိပေး ညှိနှိုင်း ရမည်။

(၅-၄) မြန်မာ့လျှပ်စစ်မှ လွှဲပြောင်း ရယူသော စက်ကိရိယာများအား အသုံးမလိုပါက ပြန်အပ်ရန်နှင့် အဆောက်အဦးများ ပြုပြင် ပြင်ဆင်ရန်တို့ကို မြန်မာ့လျှပ်စစ်နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

(၅-၅) ဘူးဂါးသည် မြန်မာ့လျှပ်စစ်မှ ဆောင်ရွက်ခဲ့သည့်အတိုင်း မီတာအသစ် တပ်ဆင်ခြင်း၊ မီတာဖတ်ခြင်း၊ ငွေတောင်းခံခြင်း၊ ဓာတ်အားခ ကောက်ခံခြင်း၊ ဓာတ်အား ဖြတ်တောက်ခြင်း၊ တရားမဝင် ဓာတ်အားသုံးစွဲမှုများ ဖေါ်ထုတ် အရေးယူခြင်း စသည်တို့ကို တည်ဆဲလျှပ်စစ် ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်။

(၅-၆) မြန်မာ့လျှပ်စစ်မှ ရရန်ရှိသော ကြွေးကျန်များ၊ ပြန်အမ်းရမည့် အာမခံ စဘော်ငွေများနှင့် ပတ်သက်၍ ဘူးဂါးသည် မြန်မာ့လျှပ်စစ်၏ ညွှန်ကြားချက်များအတိုင်း ဆောင်ရွက်ပေးရမည်။

(၅-၇) လုပ်ငန်း ခွင့်ပြုသည့် ကာလ ကုန်ဆုံးပြီးသည့်နေ့မှ (၄)လအတွင်း ဘူးဂါး ကုမ္ပဏီသည် မိမိပိုင် ပစ္စည်း ကိရိယာများနှင့် မြန်မာ့လျှပ်စစ်မှ လွှဲပြောင်း ရယူထားသော ပစ္စည်း ကိရိယာများကို ကောင်းမွန်သော အနေအထားဖြင့် မြန်မာ့လျှပ်စစ်သို့ စနစ်တကျ ပြန်လည် လွှဲပြောင်းပေးရမည်။

၆။ <u>ဘူးဂါးသို့ လွှဲပြောင်းပေးသည့် ပစ္စည်းများ</u>

(၆-၁) မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ လက်ရှိ ပိုင်ဆိုင်သော မြေနှင့် စက်ပစ္စည်း ကိရိယာများ၊ လိုင်းများ၊ မီတာများနှင့် အခြားပစ္စည်းများ အားလုံးအနက် ဘူးဂါးမှ ဆက်လက် အသုံးပြုလိုသည့် ပစ္စည်းများကို အတတ်နိုင်ဆုံး တန်ဘိုး သတ်မှတ်၍ ပစ္စည်း လွှဲပြောင်းပေးရေး အဖွဲ့ဖြင့် စာချုပ်ချုပ်ဆိုပြီးသည့်နေ့မှ တစ်လအတွင်း မြန်မာ့လျှပ်စစ်မှ လွှဲပြောင်းပေးရမည်။ ဤသို့ လွှဲပြောင်းခြင်းသည် လုပ်ငန်းများ ဆက်လက် ဆောင်ရွက် နိုင်ရန် အတွက်သာ ဖြစ်၍၊ ပစ္စည်းပိုင်ဆိုင်ခွင့်နှင့် သက်ဆိုင်ခြင်း မရှိစေရ။ နောင် ဘူးဂါးမှ အပြီးအပြတ် လွှဲပြောင်းရန်ကိစ္စ ပေါ်ပေါက်ပါက တန်ဘိုးကို နှစ်ဖက်ညှိနှိုင်း သတ်မှတ် ရမည်။ မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ်များရှိ လက်ရှိပစ္စည်းအပြင် ထပ်မံလိုအပ်ပြီး မြန်မာ့လျှပ်စစ်မှ လွှဲပြောင်း ပေးနိုင်သော ပစ္စည်းများ ရှိပါက နှစ်ဖက်ညှိနှိုင်း၍ ထပ်တိုး လွှဲပြောင်း/လက်ခံ နိုင်ပါသည်။

(၆-၂) ဤစာချုပ် အပိုဒ် (၉)အရ စာချုပ် ရပ်စဲလျှင် မြန်မာ့လျှပ်စစ်ထံမှ ဘူးဂါးက လွှဲပြောင်း လက်ခံခဲ့သော ပစ္စည်းများနှင့် ဘူးဂါးမှ ထပ်မံဖြည့်စွက် ပြင်ဆင်ထားသည့် ပစ္စည်းကိရိယာ များကို မြန်မာ့လျှပ်စစ်သို့ ဘူးဂါးမှ စနစ်တကျ လွှဲပြောင်း ပေးရမည်။ ဘူးဂါး ကုမ္ပဏီမှ ပေးရန် တာဝန်များနှင့် ပတ်သက်၍ မြန်မာ့လျှပ်စစ်တွင် တာဝန်မရှိစေရ။

၇။ <u>ဝန်ထမ်းများ လွှဲပြောင်းယူရေး အစီအစဉ်</u>

(၇-၁) ဘူးဂါးသည် မြစ်ကြီးနားမြို့နယ်နှင့် ဝိုင်းမော်မြို့နယ် လျှပ်စစ်ရုံးများတွင် တာဝန်ထမ်းဆောင် လျက်ရှိသော ဝန်ထမ်းများမှ ဆန္ဒပြုသူ အများစုကို ဆက်လက် အသုံးပြုရန် သဘောတူသည်။ သို့ရာတွင် ဘူးဂါးသည် လွှဲပြောင်းယူမည့် ဝန်ထမ်းများအား စိစစ် ပိုင်ခွင့်ရှိသည်။

(၇-၂) ဘူးဂါးမှ လွှဲပြောင်းယူသော ဝန်ထမ်းများ၏ ရာထူးပိုင်ဆိုင်ခွင့် (Lien) ကို မြန်မာ့လျှပ်စစ်၌ (သုံးနှစ်) ဆက်လက် တည်ရှိစေရမည်။ မြန်မာ့လျှပ်စစ်မှ ခံစားခွင့်ပြုထားသည့် လစာစရိတ် များနှင့် အခြားခံစားခွင့်များကို ဘူးဂါးသို့ လွှဲပြောင်းပေးသည့် နေ့မှစ၍ ဆက်လက် ခံစားပိုင်ခွင့် မရှိစေရ။

(၇-၃) ဘူးဂါးမှ လွှဲပြောင်းယူသည့် ဝန်ထမ်းများသည် ဘူးဂါးတွင် တာဝန်ထမ်းဆောင်နေသည့် ကာလအတွင်း ဘူးဂါး၏ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ကြရမည်။

(၇-၄) ဘူးဂါးမှ လွှဲပြောင်းယူသည့် ဝန်ထမ်းများ၏ လစာ၊ လုပ်ခ၊ အကျိုးခံစားခွင့်များကို တည်ဆဲ အလုပ်သမား ဥပဒေနှင့်အညီ ဘူးဂါးမှ သင့်လျော်သလို သတ်မှတ်ပေးနိုင်သည်။ ဘူးဂါးမှ ဖြည့်စွက်ခန့်ထားသည့် ဝန်ထမ်းများ၏ လစာ၊ လုပ်ခ၊ အကျိုးခံစားခွင့်များ ကိုလည်း လွှဲပြောင်းယူသည့် ဝန်ထမ်းများကဲ့သို့ တူညီသော အခြေခံဖြင့် သတ်မှတ်ပေး ရမည်။

(၇-၅) (Lien) သတ်မှတ်ထားသော သုံးနှစ်အတွင်း ဘူးဂါးမှ လွှဲပြောင်းယူသည့် ဝန်ထမ်းများသည် အပြစ်တစ်စုံတရာ ကျူးလွန်သည့် အခါတွင် ဖြစ်စေ၊ ဘူးဂါးမှ ဆက်လက် အသုံးပြုရန် ဆန္ဒ မရှိတော့သည့် အခါတွင် ဖြစ်စေ၊ ဝန်ထမ်းမှ ဆက်လက် လုပ်ကိုင်ရန် ဆန္ဒမရှိလျှင် ဖြစ်စေ၊ ပြန်လည်အပ်နှံလာလျှင် မြန်မာလျှပ်စစ်မှ စိစစ်၍၊ အပြစ်မရှိပါက မူလရာထူး အဆင့်ဖြင့် ပြန်လည် လက်ခံရမည်။ အပြစ်ရှိပါက ဝန်ထမ်းစည်းမျဉ်းနှင့်အညီ အရေးယူရမည်။

(၇-၆) ဘူးဂါးသို့ အပြီးအပိုင် တာဝန်ထမ်းဆောင်ရန် ဆန္ဒရှိသူများအား တည်ဆဲ ဝန်ထမ်း စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်၍ ခွင့်ပြုရမည်။

၈။ <u>လုပ်ငန်းဆောင်ရွက်ရန် ကာလသတ်မှတ်ခြင်းကိစ္စ</u>

ဤပဋိညာဉ်စာချုပ်နှင့်အညီ ဆောင်ရွက်ခြင်း ကာလစတင်ခြင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး၊ ဤပဋိညာဉ်စာချုပ်၌ လက်မှတ် ရေးထိုးသည့် နေ့မှ (၂၀) နှစ် စေ့ရောက်သည့် နေ့အထိ သတ်မှတ်ရန် သဘောတူ ကြသည်။ ဘူးဂါးသည် စာချုပ်ပါ လုပ်ငန်းအား ဆက်လက်လုပ်ကိုင်လို ပါက စာချုပ် သက်တမ်း မကုန်မီ (၁)နှစ် ကြိုတင်၍ မြန်မာ့လျှပ်စစ်ထံ စာဖြင့် တင်ပြရမည်။ စာချုပ်ဝင် နှစ်ဦး နှစ်ဘက် သဘောတူလျှင် တစ်ကြိမ်လျှင် (၅)နှစ်ဖြင့် (၂)ကြိမ်အထိ လုပ်ငန်း သက်တမ်းကို တိုးမြှင့်

ဆောင်ရွက်နိုင်သည်။ သို့ရာတွင် ယင်းသို့ဆောင်ရွက်ခွင့်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်က သဘောတူမှသာ အတည် ဖြစ်စေရမည်။

၉။ <u>စာချုပ်ရပ်စဲခြင်း</u>

(၉-၁) ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ်ကြောင့် ရပ်စဲလိုပါက တည်ဆဲ ဥပဒေနှင့်အညီ သက်သာခွင့်များ တောင်းဆို၍ ရပ်စဲနိုင်သည်။

(က) ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်ရန် စာချုပ်ဝင် တစ်ဘက်ဘက်မှ အကြောင်းမဲ့ ပျက်ကွက်ခဲ့လျှင်။

( ခ ) ဤစာချုပ်ပါ လုပ်ငန်း ဆောင်ရွက်ရန် တစ်ဘက်ဘက်မှ စွမ်းဆောင်နိုင်မှု မရှိတော့လျှင်။

( ဂ ) နိုင်ငံတော်မှ အကျိုးအကြောင်း ခိုင်လုံစွာဖြင့် ရပ်စဲလိုလျှင်။

(ဃ) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် (၆)လထက် ကျော်လွန်၍ ဆက်တိုက် ဖြစ်ပွားလျှင်။

(င) စာချုပ်သက်တမ်းကုန်ဆုံးလျှင်။

၁၀။ <u>လျှပ်စစ်ဓာတ်အားခ နှုန်းထားများ သတ်မှတ်ခြင်းကိစ္စ</u>

(၁၀-၁) ဘူးဂါး ကုမ္ပဏီ အနေဖြင့် တပ်မတော်နှင့် အစိုးရဌာနများအား လက်ရှိ မြန်မာ့လျှပ်စစ် ဓာတ်အားလုပ်ငန်းမှ ကောက်ခံ လျက်ရှိသော နှုန်းထား အတိုင်း တစ်ယူနစ်လျှင် - ၅၀ါးနှုန်းထားဖြင့် နိုင်ငံတော်မှ သတ်မှတ်ခွင့်ပြုထားသည့် ဓာတ်အားယူနစ်များအထိ လည်းကောင်း၊ ယင်းပမာဏထက် ကျော်လွန်ပါက တစ်ယူနစ်လျှင် ၃၅/၀၀ါး နှုန်းထားဖြင့် လည်းကောင်း၊ သာသနာရေးဆိုင်ရာ ဓာတ်အားသုံးစွဲမှုများအတွက် မြန်မာ့လျှပ်စစ် ဓာတ်အားလုပ်ငန်းမှ လက်ရှိ သတ်မှတ် ကောက်ခံလျက်ရှိသော နှုန်းထားဖြင့် လည်းကောင်း၊ ဝန်ထမ်း၊ အငြိမ်းစားဝန်ထမ်းများအား ယူနစ် ၂၀၀ အထိ မြန်မာ့လျှပ်စစ် ဓာတ်အားလုပ်ငန်းမှ လက်ရှိ သတ်မှတ် ကောက်ခံလျက်ရှိသော နှုန်းထားဖြင့် လည်းကောင်း၊ ယူနစ် ၂၀၀ ကျော်လွန်ပါက တစ်ယူနစ်လျှင် ၃၅/နှုန်းထားဖြင့် လည်းကောင်း၊ အများပြည်သူတို့အား ယူနစ် ၂၀၀ အထိ မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်းမှ လက်ရှိ သတ်မှတ် ကောက်ခံလျက်ရှိသော နှုန်းထားဖြင့် လည်းကောင်း၊ ယူနစ် ၂၀၀ ကျော်လွန်ပါက တစ်ယူနစ်လျှင် ၃၅/ နှုန်းထားဖြင့် လည်းကောင်း၊ စီးပွားရေးနှင့် စက်မှုလက်မှုများအား တစ်ယူနစ်လျှင် ၃၅/ နှုန်းထားဖြင့် လည်းကောင်း၊ အသီးသီး သတ်မှတ် ကောက်ခံရမည်။

(၁၀-၂) အစိုးရဌာန၊ ဝန်ထမ်းနှင့် အငြိမ်းစား ဝန်ထမ်းများအား နိုင်ငံတော်မှ သတ်မှတ်ထားသည့် နှုန်းထားများဖြင့် ကောက်ခံမည် ဖြစ်ရာ နောင်တွင် နိုင်ငံတော်မှ အခါ အားလျော်စွာ

ပြောင်းလဲ သတ်မှတ်ခြင်း ပြုခဲ့ပါလျှင် ပြောင်းလဲသည့် နှုန်းထားများဖြင့် ကောက်ခံရမည် ဖြစ်ပါသည်။

၁၁။ <u>အငြင်းပွားမှု ဖြေရှင်းခြင်း</u>

ဤသဘောတူ စာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီ ခန့်ထားသော ခုံလူကြီး နှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်း မဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦး က ရွေးချယ်ခန့်ထားသော သမာဓိ လူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး ( သို့မဟုတ် ) သမာဓိ လူကြီး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး ( သို့မဟုတ် ) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေ ရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတ စီရင် ဆုံးဖြတ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတ စီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက် ဥပဒေ အမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်း ထုတ်ပြန်သော တည်ဆဲ ပြင်ဆင် ချက်များနှင့် အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့် နေရာသည် ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

၁၂။ <u>မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များကိစ္စ</u>

ဤသဘောတူညီချက်အရ ဆောင်ရွက်ရမည့် တာဝန်များ ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေး ကြန့်ကြာခြင်းများ ဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သည့် ဖြစ်ရပ်နှင့်အညီ ဖြစ်ပါက နှစ်ဦးနှစ်ဖက် ကင်းလွတ်ခွင့်ပြုရမည်။ ယင်းမလွန်ဆန်နိုင်သည့် ဖြစ်ရပ်ကြောင့် တစ်ဘက်မှ မိမိလိုက်နာ ဆောင်ရွက်ရမည့် တာဝန် တစ်စိတ်တစ်ဒေသကို ဖြစ်စေ၊ အားလုံးကိုဖြစ်စေ၊ ဆောင်ရွက်ခြင်းမှ ခေတ္တ ဆိုင်းငံ့ရမည့် အခြေအနေ ပေါ်ပေါက်လာလျှင် ထိုသို့ ဆိုင်းငံ့ရမည့် ဖြစ်ရပ်နှင့် ဖြစ်တန်ရာသည့် ကာလကို ဖော်ပြလျက် ပေါ်ပေါက်သည့် နေ့မှ (၁၄) ရက်အတွင်း နစ်နာသူ အခြားတစ်ဘက်သို့ စာဖြင့် အကြောင်းကြားရမည်။ ဤသို့ အကြောင်းကြား ခြင်းကို တစ်ဘက်မှ အတည်ပြု လက်ခံမှသာလျှင် မလွန်ဆန်နိုင်သည့် ဖြစ်ရပ်မြောက်ပြီး ထိုနစ်နာသော အချိန် ကာလအတွက် တာဝန်ဝတ္တရားများ ရပ်ဆိုင်းရမည်။ ထိုမလွန်ဆန်နိုင်သည့် အခြေအနေကို အမြန်ဆုံး ကျော်လွှားနိုင်အောင် ဆောင်ရွက်ရမည်။

အထက်ပါအတိုင်း မလွန်ဆန်နိုင်သည့် ဖြစ်ရပ် ပေါ်ပေါက်မှုကို တစ်ဘက်မှ အသိပေးပြီး နှစ်ဦး နှစ်ဖက် အတည်ပြု လက်ခံထားသော ဖြစ်ရပ်များ ပေါ်ပေါက်လာသည့် ဖြစ်ရပ်ဟု ခေါ်ဆိုရာတွင် သဘာဝ ဘေးအန္တရာယ်၊ ရေကြောင်းဘေးအန္တရာယ်၊ အလုပ်သမားများ ဆန္ဒပြမှု၊ စစ်ပိတ်ဆို့မှု၊ ကူးစက်ရောဂါ၊ မြေပြိုမှု၊ ငလျင်လှုပ်မှု၊ မုန်တိုင်း၊ မိုးကြိုးပစ်မှု၊ ရေကြီးမှု၊ ပေါက်ကွဲမှုနှင့် အခြားအလားတူ ထိန်းချုပ် မရနိုင်သော ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဘက်ကမျှ ကြိုးစား အားထုတ် ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သော ဖြစ်ရပ် များ ပါဝင်ပါသည်။

၁၃။ ကြီးကြပ်ကွပ်ကဲရေးအဖွဲ့၊ ဖွဲ့စည်း ဆောင်ရွက်ခြင်း

လုပ်ငန်း ဆောင်ရွက်မှုများကို ကြီးကြပ်နိုင်ရန်အတွက် မြန်မာ့လျှပ်စစ်မှ ကိုယ်စားလှယ် (၃) ဦး၊ ဘူးဂါးမှ ကိုယ်စားလှယ် (၃) ဦး ပါဝင်သော ကြီးကြပ်ကွပ်ကဲရေးအဖွဲ့ ဖွဲ့စည်းကာ လိုအပ်သော လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ ထုတ်ပြန်၍ ကြီးကြပ် ကွပ်ကဲသွားရမည်။ စာချုပ်အတွင်း မပါရှိသော ကိစ္စရပ်များ ရှိပါက ကြီးကြပ်ကွပ်ကဲရေးအဖွဲ့နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၁၄။ ဘူးဂါး၏ လုပ်ငန်းများကို စစ်ဆေးခြင်း

ဤစာချုပ်အရ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်းနှင့် ပတ်သက်သော လုပ်ငန်းများ၊ စာရင်းဇယားများကို မြန်မာ့လျှပ်စစ်မှ အချိန်အခါမရွေး စစ်ဆေးပိုင်ခွင့်ရှိသည်။ ဤကဲ့သို့ မြန်မာ့လျှပ်စစ်မှ ဆောင်ရွက်ခြင်းကို ဘူးဂါးမှ အချိန်အခါ မရွေး စစ်ဆေးခံနိုင်ရမည်။

၁၅။ စာချုပ်ပြင်ဆင်ခြင်း

ဤစာချုပ်ကို လက်မှတ် ရေးထိုးပြီးနောက် ဤစာချုပ်ပါ အခြေအနေများနှင့် မတူသော အခြေအနေများ ပေါ်ပေါက်လာသဖြင့် စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက စာချုပ်ဝင် နှစ်ဘက် ညှိနှိုင်း၍၊ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရယူ၍ စာဖြင့်ရေးသား ပြင်ဆင်နိုင်သည်။ ထိုပြင်ဆင်ချက်များသည် ဤစာချုပ်၏ အစိတ်အပိုင်း တစ်ရပ်အဖြစ်မှတ်ယူရမည်။

၁၆။ စာချုပ်အတည်ဖြစ်ခြင်း

ဤစာချုပ်သည် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အတည်ဖြစ်သည်။

၁၇။ **<u>စာချုပ်လက်မှတ် ရေးထိုးခြင်းကိစ္စ</u>**

အထက်ပါ စာချုပ် စည်းကမ်းများအား နှစ်ဦးနှစ်ဘက် သေချာစွာ နားလည် သဘောပေါက်ကြ၍ ဤစာချုပ်ကို .......... ခုနှစ်၊ .......... .......... လ၊ .......... ရက်နေ့၌ အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် လက်မှတ် ရေးထိုးချုပ်ဆိုကြပါသည်။

| | |
|---|---|
| မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း (ကိုယ်စား) | ဘူးဂါး ကုမ္ပဏီ လီမိတက် (ကိုယ်စား) |
| ( ) | ( ) |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်းနေဂျင်းဒါရိုက်တာ |
| မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း | ဘူးဂါးကုမ္ပဏီ လီမိတက် |

<u>အသိသက်သေများ</u>

| | |
|---|---|
| (၁) | (၂) |
| ( ) | ( ) |
| ညွှန်ကြားရေးမှူး | ဒါရိုက်တာ |
| မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း | ဘူးဂါး ကုမ္ပဏီ လီမိတက် |

မှတ်ပုံတင်အမှတ် --------------------

လိပ်စာ --------------------

--------------------

| | |
|---|---|
| ( ) | ( ) |
| .......... | .......... |
| .......... | .......... |

လျှို့ဝှက်

(၂)

လျှပ်စစ်စွမ်းအားဦးစီးဌာန
၀င်စာအမှတ် ...... ၁ ......
နေ့စွဲ ...... ၂၃.၆.၀၁ ......

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး

လျှပ်စစ်ဓာတ်အား၀န်ကြီးရုံး
၀င်စာမှတ်ပုံတင်
အမှတ် ...... ၅၇ ......
နေ့စွဲ ...... ၂၁ . ၆ . ၂၀၀၁ ......

စာအမှတ်၊ ၂(၅)၁၂-၃ ( ၁၆၂ )
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ( ၈ ) ရက်

အကြောင်းအရာ။ မြစ်ကြီးနားမြို့နယ်နှင့်ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း ကိုယ်စား ဘူး ဂါး ကုမ္ပဏီလီမိတက်မှ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချရန် စာချုပ်(မူကြမ်း) အား စိစစ်ပေးရန်ကိစ္စ

ရည်ညွှန်းချက်။ လျှပ်စစ်စွမ်းအား ၀န်ကြီးဌာန၏ ၂၅-၅-၂၀၀၁ ရက်စွဲပါစာအမှတ် ၅/၈၀/၈ချင်(၁၂၇/၂၀၀၁)

၁။ မြစ်ကြီးနားမြို့နယ်နှင့်ဝိုင်းမော်မြို့နယ်များတွင် မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်း ကိုယ်စား ဘူး ဂါး ကုမ္ပဏီလီမိတက်မှ ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချရန် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အား စိစစ်ပေးပါရန် ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းစာဖြင့် ပူးတွဲပေးပို့သော စာချုပ်(မူကြမ်း)ကို ရှေ့နေချုပ်ရုံးမှ ၂၅-၄-၂၀၀၁ ရက်စွဲပါစာအမှတ် ၂(၅)၁၂-၂(၁၁၃)ဖြင့် စိစစ်အကြံပြုခဲ့သည့်စာချုပ်(မူကြမ်း)နှင့်အလားတူဖြစ်ရေးဆွဲပြုစုထားကြောင်း တွေ့ရှိရပါသည်။

၃။ ပူးတွဲပေးပို့သောစာချုပ်(မူကြမ်း)ကို ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း အကြံပြုအပ်ပါသည်—

(က) စာချုပ်(မူကြမ်း)အပိုဒ် ၁-၁၊ ၄-၁ နှင့် ၆-၁တို့အရ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ဘူး ဂါး ကုမ္ပဏီလီမိတက်သို့ လွှဲပြောင်းပေးမည့်ပစ္စည်းများ၏စာရင်းနှင့် မြန်မာ့လျှပ်စစ်မှ ရရန်ကြွေးကျန်စာရင်းများ၊အာမခံစဘော်စာရင်းများ စသည့်အရပ်ရပ်စာရင်းများ ကိုတိကျစွာပြုစုဖော်ပြရေးသား၍ စာချုပ်တွင်နောက်

ဆက်တွဲအဖြစ် ပူးတွဲထား ရှိရန်လိုအပ်သည့်အပြင် ယင်းနောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ် ကြောင်း ဖော်ပြရန် လိုအပ်ပါသည်၊

(ခ) အခြား လိုအပ်သော နေရာတွင် မှင်နီဖြင့်အနည်းငယ်ပြင်ဆင်ပေး လိုက်ပါသည်။

၄။ စာချုပ်(မူကြမ်း) ပါလျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများ ဥပဒေပုဒ်မ-၄ အရ အစိုးရအဖွဲ့က အမိန့်ကြော်ငြာစာထုတ်ပြန် ၍ ခွင့်ပြုရန် လိုအပ်သဖြင့် ယခုကိစ္စကို အစိုးရအဖွဲ့သို့ တင်ပြ၍ ခွင့်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ပါသည်။

၅။ ဘူးဝါး ကုမ္ပဏီလီမိတက်သည် တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ရန် ငွေကြေးအင်အား ရှိ မရှိ၊ စာချုပ်ပါလုပ်ငန်းကို ဆောင်ရွက်နိုင်စွမ်း ရှိ မရှိနှင့် စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၆။ ၎င်းစာချုပ်ကိုလက်မှတ်ရေးထိုး ချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် ဤရုံးသို့မိတ္တူ(၃) စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်( ကိုယ်စား )

( မေဒင်၊ ညွှန်ကြားရေးမှူး )

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သစ်တောရေးရာဝန်ကြီးဌာန
သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးရုံး
ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့

စာအမှတ်၊ ၂၈၁၅ - ၂၈၁၇ /စ(င)၄ ။

ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ( ၂၁ ) ရက် ။

သို့

အုပ်ချုပ်မှုဒါရိုက်တာ

ဘူးဂါးကုမ္ပဏီ လီမိတက်

မြစ်ကြီးနားမြို့ ။

အကြောင်းအရာ။ ။ ဒဘက်ချောင်း ရေအားလျှပ်စစ်စီမံကိန်း၊ ရေလှောင်ဆည်၏ ရေဝပ်ဧရိယာအတွင်း သစ်တောရေမြုပ်မှုမရှိကြောင်း ထောက်ခံချက်ရရှိရေးကိစ္စ ။

ရည်ညွှန်းချက်။ ၁။ ဘူးဂါးကုမ္ပဏီလီမိတက်၏ (၁၄-၆-၂၀၀၁) ရက်စွဲပါစာအမှတ်၊ ဘဂ-၉(စွ)/၂၀၀၁/၀၆၈ ။

၂။ လက်ထောက်ညွှန်ကြားရေးမှူး၊ သစ်တောဦးစီးဌာန၊ မြစ်ကြီးနားခရိုင်၏ (၁၉-၆-၂၀၀၁) ရက်စွဲပါစာအမှတ်၊ ၁၄၇၅-၇၆/စ(င)၄ ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ - ဒဘက်ချောင်း ရေအားလျှပ်စစ်စီမံကိန်း၊ ရေလှောင်ဆည်၏ ရေဝပ်ဧရိယာအတွင်း သစ်တောရေမြုပ်မှုရှိနိုင်/မရှိနိုင်နှင့်သစ်တောများ ပျက်စီးမှုရှိနိုင်/မရှိနိုင်ကွင်းနင်းစစ်ဆေး ရန်တာဝန်ပေးချက်အရ ဝိုင်းမော်မြို့နယ်သစ်တောဦးစီးဌာန၏ကွင်းနင်းစစ်ဆေးချက် အစီရင်ခံစာအရ၊ သစ်တောရေမြုပ်မှုမရှိကြောင်းနှင့်သစ်တောများအား ထိခိုက်မှုမရှိကြောင်း၊ လက်ထောက်ညွှန်ကြားရေးမှူး၊ မြစ်ကြီးနားခရိုင်၏ ရည်ညွှန်းစာ (၂) ဖြင့်အစီရင်ခံတင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ ဒဘက်ချောင်း ရေအားလျှပ်စစ်စီမံကိန်း ရေလှောင်တမံ ရေဝပ်ဧရိယာအတွင်း သစ်တောများ ရေမြုပ်မှုမရှိကြောင်းနှင့်သစ်တောများ ပျက်စီးမှုမရှိနိုင်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

၂၁/၆/၀၁

ညွှန်ကြားရေးမှူး (ကိုယ်စား)
သစ်တောဦးစီးဌာန၊ ကချင်ပြည်နယ်
မြစ်ကြီးနားမြို့

မိတ္တူကို -

(ကြည်ဝင်း၊ လက်ထောက်ညွှန်ကြားရေးမှူး)

- လက်ထောက်ညွှန်ကြားရေးမှူး၊ သစ်တောဦးစီးဌာန၊ မြစ်ကြီးနားခရိုင်။
- မြို့နယ်ဦးစီးမှူး၊ သစ်တောဦးစီးဌာန၊ ဝိုင်းမော်မြို့ ။
- ရှောစာတွဲ ။
- ရုံးလက်ခံ ။

**/ဝင်း

# ဒဘတ်ရေအားလျှပ်စစ်စီမံကိန်း

## တမံရေဝပ်ဧရိယာပြမြေပုံ

ကွန်တိုခြားနားခြင်း ~ ၅ ပေ
မြေပုံညွှန်း: 92 G 12 SD 48814
စကေး ~ ၁" = ၁၅၀ ပေ



**LAND REVENUE 111**
Misceilaneous 1

(မျက်နှာဖုံး)

အခွန်အမှုတွဲ

၁၉ ——ခုနှစ် အမှုတွဲအမှတ် —၅/၂၀၀၁——

————————————————

ပြောကဒါ ကျေးရွာ —— ရပ်ကွက်အမှတ် ( ၁၁၁ )

မြေယာကွက်အမှတ်( )ဦးပိုင်အမှတ်( N ၁ )

လနာ (၃၉) ကင်းလွတ်ခွင့် အမှုတွဲအမျိုးအမည်

( )

( )

ခေါင်းစဉ်

အမှုသည်များရှိလျှင်ယင်းတို့၏အမည်

လျှောက်သူတရားလို ဦးဂမ်ရှောင်

တရားခံ ____________

အစပြုသည့်နေ့ရက် ၈. ၆. ၂၀၀၁

ပြီးပြတ်သည့်နေ့ရက် ____________

ရည်ညွှန်းချက်များရှိလျှင် ၎င်းရည်ညွှန်းချက်များ

ပူဂ COMPANY LIMITED ★ ဦး ကု မ္ဘ ဏီ လီ မိ တက်

မြစ်ကြီး နား မြို့

စာအမှတ်၊ ဘဂ-၉ ( ထွေ ) / ၂၀၀၁/ 058

ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇူန်လ ( ၅ ) ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၁ ကျပ် -K3

သို့

ဦး စိုး အရာရှိ

မြို့နယ် မြေစာရင်း ဦး စီး ဌာန

ဝိုင်း မော် မြို့

အ ကြောင်း အရာ။ <u>လန ( ၃၉ ) လျှောက်ထား ခြင်း ။</u>

အထက်အ ကြောင်း အရာပါကိစ္စ နှင့်ပတ်သက်၍ ဝိုင်း မော်မြို့နယ် ဖေဘုတော ဘုရားအနီး တွင်အ ကောင်အထည် ဖော် ဆောင်ရွက် မည့် ဒဘတ် ရေ အား လျှပ်စစ်စီမံကိန်း ၏ လျှပ်စစ် ဓါတ်အား ထုတ်စက်ရုံ နှင့် ဓါတ်အား ခွဲရုံ၊ ဝန်ထမ်းအိမ် ယာ နေရာများ အတွက်၊ လန ( ၃၉ ) ချထား ပေး ပါရန် လျှောက်ထား အပ်ပါသည်။

ဒဘတ် ရေအား လျှပ်စစ်စီမံကိန်း ၏ ၁ လက်မ = ၁ မိုင်စာ ကား မြေပုံညွှန်း မှာ ( 92 G 12 SD 488149 ) ဖြစ်ပါသည်။

<u>ပူး တွဲလျက်</u>

၁။ မြေစာရင်း ပုံစံ ( ၁၀၅ )

၂။ ပတ်ဝန်း ကျင်ပြမြေပုံ

၃။ Site Plan

လေး စား စွာဖြင့်

(signature) ၇/၆/၀၁

မန် နေဂျင်း ဒါရိုက်တာ

မိတ္တူ ကို၊

- မျှော

- လက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၁ကျပ် K1
၁ကျပ် K1
၃ကျပ် K3

မြို့နယ်မြေစာရင်းဦးစီးဌာန ဝိုင်းမော်မြို့
မှန်ကြောင်း သက်သေခံ ... သက်သေ ... သာလက်ရှိမြေ

| | |
|---|---|
| ခရိုင် | မြစ်ကြီးနား |
| မြို့နယ် | ဝိုင်းမော် |
| ရပ်ကွက်/ကျေးရွာအုပ်စု | ပေါ့ဒေါ့ကျေး ရွာအုပ်စု |
| ကွင်း/အကွက်အမှတ်နှင့်အမည် | အီးအက်စ်အက်စ် / ပေါ့ဒေါ့ |
| ဦးပိုင်အမှတ် | အင်န်+-၁ |

ဦးစိုးဌာနမှူး
မြို့နယ်မြေစာရင်းဦးစီးဌာနမှူး
ဝိုင်းမော်မြို့ - ကချင်ပြည်နယ်။

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ ၊ ပိုင်ရှင်အမည် ၊ ဂရန်ရှင်/ အငှားဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ( ဧရိယာ ၊ ဧက ) | မှတ်ချက် |
|---|---|---|---|---|---|
| အင်န်-၁ | ဂမ်ရှောင် | အစိုး ၇ | ဒီဇ်ဓည | ၅ . ၃၃ | |

ရေးကူးပေးသည့်အကြောင်းအရာ - လန (၃၉) လျှောက်ရန်
( ဖော်ပြပါအကြောင်းအရာအတွက်သာအသုံးပြုခွင့်ရှိသည် )
လျှောက်ထားသူအမည် - ဂမ်ရှောင်
လျှောက်လွှာတင်သည့်နေ့စွဲ - ၇.၆.၂၀၀၁
လျှောက်သူသို့လက်ခံပေးအပ်သည့်နေ့စွဲ - ၁၃.၆.၂၀၀၁

အလားအလာ
မြောက်ဘက် ပေါ့ဒေါ့တောင်
အရှေ့ဘက် ပေါ့ဒေါ့တောင်
တောင်ဘက် ဒုဘတ်ရှောင်း
အနောက်ဘက် ဒုဘတ်ရှောင်း

ယခုအထက်တွင်ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာရေးကူးထားသော ၂၀၀၀ ပြည့်နှစ်အတွက် နောက်ဆက်တွဲတိုင်းတာခြင်းမြေပုံဖြစ်ကြောင်းသက်သေခံလက်မှတ်ရေးထိုးပါသည် ။
အမှုတွဲထိန်း / မြေတိုင်းစာရေးလက်မှတ်

နေ့စွဲ ၈ . ၆ . ၂၀၀၁

နော်အောင်
မြေတိုင်း-၄
အုပ်စုအမှတ်( )
ဝိုင်းမော်မြို့

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည် ။
လက်ထောက်ဦးစီးမှူးလက်မှတ်

၆ . ၂၀၀၁

လက်ထောက်ဦးစီးမှူး
မြို့နယ်မြေစာရင်းဦးစီးဌာန
ဝိုင်းမော်မြို့

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၁ကျပ် K1
၁ကျပ် K1
၃ကျပ် K3

# ဒဘတ်ရေအား လျှပ်စစ်စီမံကိန်း နေရာသိုက်ပလင်ပုံ

စကေး ၆၄လက်မ = ၁မိုင်




ရည်ညွှန်းချက်

၁။ လျှပ်စစ်ဓါတ်အား ခွဲစက်ရုံ

၂။ လျှပ်စစ်ဓါတ်အား ထုတ်လုပ်စက်ရုံ

၃။ ဝန်ထမ်း အိမ်ယာ

နော်အောင်
မြေတိုင်း-၄
အုပ်စုအမှတ်( )
ပိုင်းမော်မြို

# ASIA WEALTH BANK LIMITED
အာရှဓနဘဏ်လီမိတက်
亚洲经济银行

**Thingangun Branch**
Phone Nos. –571711,571722,571733
Between ThuMinGalar Tower And LayDauntKan Street, Thingangun
Township, Yangon

Date : 27/06/2001

## Balance Confirmation Certificate

We confirm that the balance at credit of Current / Savings / Call Deposit account No 0702402000009452 of **U KARENG LA TAWNG + U LA JA** with the Asia Wealth Bank Ltd.( Thingangyun Branch ) at the close of the business on 27/06/2001 is ( K 3,049,499.16 ) Kyats. Three Million Forty Nine Thousand Four Hundred And Ninety Nine only.

Yours faithfully.

28/6/01
( Tae Ni Min )
(Manager)
Asia Wealth Bank Ltd.
Thingangyun Branch

# မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်

မှတ်စုများ

အကြောင်းအရာ ။

<u>သက်ဆိုင်ရာသို့</u>

ဘုံးဂါးကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ငွေစာရင်းအမှတ် - ၉၃၀၀၁ ဖြင့်ငွေစာရင်းဖွင့်ထားကြောင်း မှန်ကန်ပါသည်။

ဘုံးဂါးကုမ္ပဏီလီမိတက်သည် နိုင်ငံခြားသို့ထုတ်ကုန်တင်ပို့ခြင်း ၊ နိုင်ငံခြားမှသွင်းကုန်တင်သွင်းခြင်း စီးပွားရေးလုပ်ငန်းများအား အစဉ်ဆောင်ရွက်ရာ၌ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်အနေဖြင့် နိုင်ငံခြားငွေသွင်းခြင်း ထုတ်ခြင်း ကိစ္စရပ်များကို အစဉ်ဆက်သွယ်ဆောင်ရွက်ပေးနေရကြောင်း ၊ ၎င်းဘုံးဂါးကုမ္ပဏီလီမိတက်၏ နိုင်ငံခြားငွေဘဏ်စာရင်း အရှုပ်အရှင်း တစုံတရာမရှိဘဲ မှန်ကန်စွာဆောင်ရွက်လုပ်ကိုင်နေသောကုမ္ပဏီဖြစ်ကြောင်း ထောက်ခံပါသည်။

( မန်နေဂျာ )

M T T B
*Manager*
Travel Department
Myanmar Foreign Trade Bank

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ........၁၂၃၆......../၁၉၉၄ - ၁၉၉၅

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ....ဘူး ဂါး ကုမ္ပဏီ လီမိတက်.... အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၅ ခုနှစ်၊ ...ဖေဖော်ဝါရီ... လ ...၁၆... ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( သိင်္ဂီတင် )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND
ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. ..........1236.......... of 1994 - 1995

*I hereby certify that* BU GA COMPANY LIMITED ............ *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* SIXTEENTH *day of* FEBRUARY *one thousand nine hundred and* NINETY FIVE

( THEINGI TIN )
Registrar of Joint Stock Companies
Companies Registration Office

FORM VI

# RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 16th day of September, 199 6.
on the of 19 of the * BU GA CO., LTD

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 1 shares.
" " " " .....

Nominal amount of the shares so allotted ..... Ks. 100,000/-
" " " " .....

Amount paid or due and payable on each such share .... Ks.100,000/-
" " " " (Fully paid up)

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ....

Amount to be treated as paid on each such share ....

The consideration for which such share have been allotted is as folllows:-

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : BU GA COMPANY LIMITED

Presented by : DR. LA JA

| | The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| | Dr. La Ja | Myanmar 1/MaKaNa (Naing) 102749 | No.445, Yuzana Quarter, Myitkyenar Townshipφ Kachin State. | Merchant | Managing Director |
| 2. | U Zawng Hkawng | Myanmar 1/MaKaNa (Naing) 070137 | No.274, Kyun Pin Thar Quarter, Myitkyenar Township, Kachin State. | Merchant | Director/Appointed as General Manager w.e.f 16-9-96 |
| 3. | U Zawng Hra | Myanmar SPM-005815 | No.274, Kyun Pin Thar Quarter, Myitkyenar Township, Kachin State. | Merchant | Appointed as Director /Chairman w.e.f 16-9-96 |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..................................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ............

Designation ...... Dr. LA JA......

(Managing Director)

Dated this ... 16-9-96. ... ... ... ... ...